ပုံစံ (မရသ-၂)
စာအမှတ် ၀၉၃၄
နေ့စွဲ ၃၀.၉.၉၆

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မရသ-၀၄၀/၉၆

၁၉၉၆ ခုနှစ် စက်တင်ဘာလ ၃၀ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးဆောင်သွန်ကြားရေးမှူး၊ မြန်မာ့သစ်တော်လုပ်ငန်း

(ခ) အဘအမည် ....................

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ....................

(ဃ) နေရပ်လိပ်စာ ဆင်မလိုက်ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း အမ်အက်စ်ဝုဒ်ဝါ့(ခ်)ကုမ္ပဏီလီမိတက်
( MS Woodwork Co., Ltd . )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား
သစ်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ဆင်မလိုက်ရပ်ကွက်၊
ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၂.၆ ရသန်း ( ကျပ်နှစ်ဆယ့်နှစ်သန်း ခြောက်သိန်း ခုနှစ် သောင်း ခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၃၂/၉၆
ရန်ကုန်မြို့၊ ၁၃၅၈ ခုနှစ်၊ တော်သလင်းလပြည့်ကျော် (၃) ရက်။
(၁၉၉၆ ခုနှစ်၊ စက်တင်ဘာလ ၃၀ ရက်)

၁။ မြန်မာ့သင်္ဘောကျင်းလုပ်ငန်းနှင့် Standard Myanmar Company Ltd. - တို့ဖက်စပ်၍ ( M S Woodwork Co., Ltd.) အမ်အက်စ်ဝုံ(ဒ်)ဝါ(ခ်)ကုမ္ပဏီလီမိတက်တည်ထောင်ကာ ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ဆင်မလိုက်ရပ်ကွက်၊ မြန်မာ့သင်္ဘောကျင်းလုပ်ငန်း ရှိသစ်သားထည်ပစ္စည်း စက်ရုံတွင်သစ်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား (၂၃-၈-၉၆) နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃/၉၆) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး အစိုးရအဖွဲ့အစည်းအဝေးသို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ (၂၅-၉-၉၆) နေ့တွင်ကျင်းပပြုလုပ်သည့်ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၃၂/၉၆) ကြိမ်မြောက်အစည်းအဝေးသို့ ဒုတိယဝန်ကြီးချုပ်ရုံးမှတင်ပြခဲ့ရာအစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေခန်း (၅)၊ ပုဒ်မ-၁၀ အရအပ်နှင်းထားသောလုပ်ပိုင်ခွင့်များကိုကျင့်သုံးလျက် ( M S Woodwork Co., Ltd.) အမ်အက်စ်ဝု(ဒ်)ဝါ(ခ်) ကုမ္ပဏီလီမိတက်အား သစ်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကိုကနဦး ၁၅ နှစ်နှင့် နောက်ထပ် ၅ နှစ်တိုးမြှင့်ခွင့်နှင့် ဆောင်ရွက်နိုင်ရန်အတွက်ခွင့်ပြုမိန့်အမှတ်၊ မနသ- ၀၄၇/၉၆ ကိုထုတ်ပေးလိုက်သည်။

၂။ M S Woodwork Co., Ltd. - အနေဖြင့်၎င်းခွင့်ပြုမိန့်အရ သစ်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေခန်း (၇)၊ ပုဒ်မ-၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင်တစ်ဆက်တည်း (၃) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ-၁၃ ပါပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါအခွန်ကင်းလွတ်ခွင့်

နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ-၁၃(ခ)အရ လုပ်ငန်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့်အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်း အထိကာလ အကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့်ကို ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီး နောက်လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျှက်၍ ကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ-၁၃(ဂ)အရ ကုန်ထုတ်လုပ်မှုလုပ်ငန်း ကြောင့် သတ်မှတ်ထည့်နှုန်း အထိပြည်တွင်း ပြည်ပဝင်ငွေတိုး တက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီဝင်ငွေခွန်သက်သာခွင့်ခံစား နိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံး ပြီး သည့်အခါလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျှက်၍ ကော်မရှင်သို့တင်ပြ လျှောက်ထား ရမည်။

(ဂ) ဥပဒေပုဒ်မ-၁၃(စ)အရလုပ်ငန်း မှရရှိသည့်အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍တစ်နှစ်အတွင်း လုပ်ငန်း သို့ပြန် လည် ရင်း နှီး မြှုပ်နှံလျှင်ထိုအမြတ်ငွေအပေါ်တွင်ဝင်ငွေခွန်ကင်းလွတ် ခွင့်သို့မဟုတ်သက်သာခွင့်ခံစား နိုင်ရန်အတွက်ဝင်ငွေခွန်ကင်း လွတ်ခွင့်ကာလကုန်ဆုံး ပြီး၍အမှန်တကယ်ပြန်လည်ရင်း နှီးမြှုပ်နှံ မှုပြုသည့်အခါလုပ်ငန်း အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ကော်မရှင်သို့တင်ပြ လျှောက်ထား ရမည်။

(ဃ) ဥပဒေပုဒ်မ-၁၃(ဆ)အရလုပ်ငန်း သုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုး လျော့ငွေကိုသတ်မှတ်သည့်နှုန်း အတိုင်း နှစ်တိုတို နှင့်မူလတန်ဖိုး ပြည့်မီသည်အထိအမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့်စပ် လျဉ်း၍ယင်း တန်ဖိုး လျော့နှုန်း ထား များ ကို ကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

(င) ဥပဒေပုဒ်မ - ၁၃ (ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့်အမှန်တကယ်လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း လုပ်ငန်းသုံးပစ္စည်းများအပေါ်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ နှစ်မျိုးလုံးကိုကင်း လွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ - ၁၃ (ဈ) အရ သတ်မှတ်ထားသည့်ကနဦး ရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက်ကုန်ထုတ်လုပ်ရန်ပြည်ပမှတင်သွင်းသည့်ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကိုကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ - ၁၃ (ဇ) အရ ပြည်ပမှတင်သွင်းသည့်စက်ပစ္စည်းများ နှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေရရှိပုံနည်းလမ်း ( Source of Payments for Import - ) ဥပမာ - ပြည်ပတင်ပို့မှုမှဝင်ငွေ၊ ပြည်ပချေးငွေ ( Loan and Credits ) ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စနစ် ( Buy - back System ) စသည်တို့ကိုဖော်ပြရန်။

(ခ) တင်သွင်းမည့်ပစ္စည်းအမျိုးအစားစာရင်း ( Invoice and Packing List ) များကိုနိုင်ငံခြားမတည်ငွေရင်း တန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်သို့တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက်မြန်မာ့ဒုသတော်ဘကျင်း လုပ်ငန်းနှင့်စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်တို့၏သစ်အခြေခံပစ္စည်းထုတ်လုပ်ရေး ဖက်စပ်လုပ်ငန်းပဋိညာဉ်စာချုပ်နှင့်မြေငှားရမ်းခြင်းသဘောတူကတိစာချုပ်တို့ကို လက်မှတ်ရေးထိုးပြီးသည့်အခါယင်းသဘောတူစာချုပ်မိတ္တူ (၁) စောင်စီကိုကော်မရှင်ရုံးသို့တင်ပြရမည်။

၅။ ငှားရမ်းကာလသည် ငှားရမ်းခြင်းသဘောတူကတိစာချုပ် (မူကြမ်း) တွင် လျှောက်ထားတင်ပြသည့်အတိုင်း ကနဦး (၁၅) နှစ်နှင့် နောက်ထပ် (၅) နှစ်သက်တမ်းတိုးမြှင့်ခွင့်ရှိသည်။ ထိုသို့သက်တမ်းတိုးမြှင့်လိုလျှင် ကနဦး (၁၅) နှစ်မတိုင်မီ (၃) နှစ်ကြိုတင်၍ စာဖြင့်အကြောင်းကြားရမည်။ အသစ်ငှားရမ်းခြင်းကာလအတွက် ပဋိဥာဉ်အသစ်ကိုပြန်လည်ချုပ်ဆို၍ ငှားရမ်းခအသစ်နှုန်း ဖြင့်ပြင်ဆင်ညှိနှိုင်းရမည်။ ငှားရမ်းခများကို ကွင်းပြင်ဧရိယာစတုရန်းမီတာ ၆၀၇၉.၆ အတွက် တစ်နှစ်လျှင်တစ်စတုရန်းမီတာလျှင်ကျပ် ၈၁ နှုန်းဖြင့်လည်းကောင်း၊ အဆောက်အဦ တည်ရှိသောဧရိယာစတုရန်းမီတာ ၃၀၂၅.၈ အတွက်တစ်နှစ်လျှင်တစ်စတုရန်းမီတာ လျှင်ကျပ် ၁၅၀ နှုန်းဖြင့်စုစုပေါင်းဧရိယာ ၂.၂၅ ဧကအတွက်ကျပ် ၉၄၆၃၀၀ (ကျပ်ကိုးသိန်း လေး သောင်း ခြောက်ထောင်သုံးရာတိတိ) ကို ပေးချေရမည်။ ငှားရမ်းခများကို (၅) နှစ်တစ်ကြိမ်ပြန်လည်သုံးသပ်ရမည်။ ထိုသို့သုံးသပ်ရာတွင်လက်ရှိနှုန်းထား၏ (၁၅) ရာခိုင်နှုန်း ထက်မပိုသောနှုန်းဖြင့်ပြန်လည်ညှိနှိုင်းသုံးသပ်ရမည်။

၆။ ထိုသို့မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ အငှားချထားသူနှင့်အငှားချထားခြင်းခံရသူနှစ်ဦးနှစ်ဖက်စလုံးတို့သည် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကိုတိကျစွာလိုက်နာဆောင်ရွက်ရမည်။

၇။ စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက် (Standand Myanmar Co.,Ltd.) သည်ပံ့ပိုးထည့်ဝင်ရမည့်အစုငွေ၏ ၁၀ ရာခိုင်နှုန်းဖြစ်သောကျပ် ၁၀၂၀၀၀၀ (ကျပ်တစ်သန်း နှစ်သောင်းတိတိ) ကိုဘဏ်အာမခံကြေးအဖြစ်မြန်မာ့သင်္ဘောကျင်းလုပ်ငန်းက သတ်မှတ်ပေးသည့်ဘဏ်တစ်ခုခုတွင်စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှတစ်လအတွင်း ထားရှိရမည်။

၈။ အမ်အက်စ်ဝုဒ်ဝါ့(ခ်)ကုမ္ပဏီလီမိတက် (MS Woodwork Co., Ltd. ) ကိုမြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီမှတ်ပုံတင်နိုင်ရန်အတွက်ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအားမှတ်ပုံတင်ပြီးသည့်အခါအောက်ဖော်ပြပါစာရွက်စာတမ်း (၅) စောင်စီကိုကော်မရှင်ရုံးသို့ပေးပို့တင်ပြရမည်။

(က) ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (Certificate of Incorporation )

(ခ) ကုမ္ပဏီများ ညွှန်ကြားမှုဌာနက အတည်ပြုပြီး ဖြစ်သည့်မြန်မာ- အင်္ဂလိပ်နှစ်ဘာသာဖြင့်ပြုစုထားသော ကုမ္ပဏီ၏သင်းဖွဲ့စည်းမျဉ်းနှင့်သင်းဖွဲ့မှတ်တမ်းများ ( Memorandum and Articles of Association )

၉။ အမ်အက်စ်ဝု(ဒ်)ဝါ(ခ်)ကုမ္ပဏီလီမိတက် ( MS Woodwork Co., Ltd. ) သည်ဤခွင့်ပြုမိန့်အရလုပ်ငန်း ဆောင်ရွက်ရာ၌ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှုစသည်များ မဖြစ်ပေါ်စေရန်အတွက်လိုအပ်သည့်ပတ်ဝန်းကျင်ညစ်ညမ်းမှု၊ ထိန်းသိမ်းကာကွယ်ရေး အစီအမံများ ကိုစနစ်တကျထား၍ ဆောင်ရွက်ရမည်။

၁၀။ အဆိုပြုလုပ်ငန်းစတင် ဆောင်ရွက်သည့် နေ့ရက်ကိုဤ ကော်မရှင်သို့အမြန်ဆုံး အစီရင်ခံရမည်။

၁၁။ ဤခွင့်ပြုမိန့်ထုတ် ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည်အလိုအလျောက်ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အမိန့်အရ-

(ဗိုလ်မှူးချုပ် မောင်မောင်)
အတွင်းရေးမှူး
[ ဝန်ကြီး၊ ဒုတိယဝန်ကြီး ချုပ်ရုံး ]

စာအမှတ်၊ ရက-၁/မ-၀၃၂/၉၆ ( ၀၉၃၄ )။
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ စက်တင်ဘာ လ ၃၀ ရက်။

ဖြန့်ဝေခြင်း -
၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ဥက္ကဋ္ဌရုံး ။
၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး ။
၃။ အစိုးရအဖွဲ့ရုံး ။

၄။ ဒုတိယဝန်ကြီးချုပ်ရုံး ။

၅။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

၆။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန ။

၇။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန။

၈။ သစ်တောရေးရာဝန်ကြီးဌာန။

၉။ ပို့ဆောင်ရေးဝန်ကြီးဌာန။

၁၀။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန။

၁၁။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ဝင်။
(ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုဂါတ်ပစ္စည်းစာရင်းအင်းနှင့်စစ်ဆေးရေး
ဦးစီးဌာန) ။

၁၂။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်။

၁၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန။

၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။

၁၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း ။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။

၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း ။

၁၈။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များ
အသင်း ။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သင်္ဘောကျင်းလုပ်ငန်း ။

၂၁။ ဥက္ကဋ္ဌ၊ စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်။
(Standard Myanmar Co., Ltd. )

အမိန့်အရ –

(မောင်မောင်ရီ)
တွဲဖက်အတွင်းရေးမှူး



ပ၁*၂၃/၉/၉၆။

အထွေထွေအရပ်ရပ်–၁၆

(ရုံးတွင်း စာအကျဉ်းချုပ် သို့တည်း မဟုတ် စာကြမ်း ရေး ရန်အတွက်)

အကြောင်းအရာ။ ။ MS Woodwork Co.,Ltd.သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ သစ်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်ခွင့်ပြုမိန့်ထုတ်ပေးခြင်း ။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာ့သင်္ဘောကျင်း လုပ်ငန်း ပိုင်သစ်သား ထည်ပစ္စည်း စက်ရုံတွင် မြန်မာ့သင်္ဘောကျင်း လုပ်ငန်း နှင့် Standard Myanmar Co.,Ltd. တို့ဖက်စပ်၍MS Woodwork Co., Ltd.တည်ထောင်ထား သစ်ကုန်ချော ပစ္စည်း များ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုချက်အား (၂၃–၇–၉၆) နေ့တွင်ကျင်း ပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်း နှီး မြှုပ်နှံမှုကော်မရှင်၏ (၁၃/၉၆) ကြိမ် မြောက်အစည်း အဝေး သို့တင်ပြခဲ့ရာ ကော်မရှင်မှမူအား ဖြင့်သဘောတူညီခဲ့ပြီး အစိုး ရ အဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံး ဖြတ်ခဲ့ပါသည်။

၂။ ကော်မရှင်၏ဆုံး ဖြတ်ချက်နှင့်အညီ ယင်း အဆိုပြု လုပ်ငန်း အား (၂၅–၉–၉၆) နေ့တွင်ကျင်း ပပြုလုပ်ခဲ့သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုး ရအဖွဲ့၏ (၃၂/၉၆) ကြိမ် မြောက်အစည်း အဝေး သို့ ဒုတိယဝန်ကြီး ချုပ်ရုံး မှတင်ပြခဲ့ရာ ယင်း အစည်း အဝေး မှသဘောတူကြောင်း ဆုံး ဖြတ်ခဲ့ပါသည်။

၂/–

အထွေထွေအရပ်ရပ်-၁၆

(ရုံး တွင်း စာအကျဉ်း ချုပ် သို့တည်း မဟုတ် စာကြမ်း ရေး ရန်အတွက်)



၃။ သို့ဖြစ်ပါ၍မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေအခန်း (၅)၊ ပုဒ်မ-၁၀နှင့်ယင်း ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်း များ အခန်း (၄)၊ အပိုဒ်-၁၂ တို့နှင့် အညီ MS Woodwork Co., Ltd. သို့ထုတ် ပေး မည့်ခွင့်ပြုမိန့်တွင်လက်မှတ် ရေး ထိုး ပေး နိုင်ပါရန်နှင့်ယင်း ခွင့်ပြုမိန့်ထုတ် ပေး မည့်အမှာစာ( မူကြမ်း )ကိုသဘောတူအတည်ပြုပေး နိုင်ပါရန်ပြုစုတင်ပြလျက် အမိန့်နာခံအပ်ပါသည်။

၂၇-၉-၉၆။

~~အတွင်း ရေး မှူး (ဝန်ကြီး)~~

Permit [illegible]

ဥက္ကဋ္ဌ ( ဒုတိယဝန်ကြီး ချုပ်)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ဒုတိယဝန်ကြီးချုပ်ရုံး
ရန်ကုန်မြို့။

စာအမှတ်၊ (ဒု) ၀၁၇/ ရင်းနှီး/ ၁( ၁၉၂ )၊
ရက်စွဲ ၊ ၁၉၉၆ ခုနှစ်၊ ဩဂုတ်လ ၂၉ ရက်။

## ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ MS Woodwork Co., Ltd. တည်ထောင်၍ သစ်ကုန်ချောပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့သင်္ဘောကျင်းလုပ်ငန်းနှင့် မြန်မာကုမ္ပဏီဖြစ်သည့် Standard Myanmar Co., Ltd. တို့ဖက်စပ်ပြုလျက် အမ်အက်စ်ဝုဒ်(ဒ်)ဝေါ့(ခ်)ကုမ္ပဏီလီမိတက်( MS Woodwork Co., Ltd ) တည်ထောင်၍ သစ်ကုန်ချောပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို ( ၂၃-၈-၉၆ ) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၁၃/၉၆ ) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ **ရာ** အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူပြီး၊ အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ အစိုးရအဖွဲ့သို့ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ဖက်စပ်လုပ်ငန်းသဘောတူစာချုပ်( မူကြမ်း )၊ မြေငှားရမ်းမှုသဘောတူစာချုပ်( မူကြမ်း ) နှင့် ရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်များကို နောက်ဆက်တွဲ( ၁ ) အဖြစ် ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်းပမာဏနှင့်မတည်ငွေရင်းအချိုးအစားတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | မတည်ငွေရင်း ပမာဏ (ကျပ်သန်း) | မတည်ငွေရင်း အချိုးအစား |
|---|---|---|
| - မြန်မာ့သင်္ဘောကျင်းလုပ်ငန်း | ၁၂.၄၇ | ၅၅ % |
| - Standard Myanmar Co. Ltd | ၁၀.၂၀ | ၄၅ % |
| စုစုပေါင်း | ၂၂.၆၇ | |

ယင်းတွင်မြန်မာ့သင်္ဘောကျင်းလုပ်ငန်းမှ ငွေသားကျပ် ၀.၈၄ သန်း၊ အဆောက်အအုံနှင့်စက်ကိရိယာပစ္စည်းများတန်ဖိုးကျပ် ၁၁.၆၃ သန်းနှင့် Standard Myanmar Co., Ltd. မှ ငွေသားကျပ် ၂.၆၂ သန်း၊ စက်ကိရိယာပစ္စည်းတန်ဖိုးကျပ် ၇.၅၈ သန်းထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကိုဆောင်ရွက်ရန် မြန်မာ့သင်္ဘောကျင်းလုပ်ငန်းပိုင် ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ဆင်မလိုက်ရပ်ကွက်ရှိ မြေ( ၂.၂၅ ) ဧက(၉၁၀၅.၄၃ စတုရန်းမီတာ)ကို ကနဦး ၁၅ နှစ်ငှားရမ်း၍ကုန်ချောပစ္စည်းထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး သစ်ကုန်ချောပစ္စည်းထုတ်လုပ် ဆောင်ရွက်မည်ဖြစ်ပါသည်။ မြေငှားရမ်းခနှုန်းမှာ Covered area ( ၃၀၂၅.၈ စတုရန်းမီတာ ) အတွက် တစ်နှစ်လျှင်တစ်စတုရန်းမီတာကို ကျပ် ၁၅၀ နှုန်းဖြင့် ကျပ် ၀.၄၅၄ သန်း ၊ Uncovered area ( ၆၀၇၉.၆ စတုရန်းမီတာ ) အတွက်တစ်နှစ်လျှင်တစ်စတုရန်းမီတာကို ၈၁ ကျပ်နှုန်းဖြင့် ကျပ် ၀.၄၉၂ သန်း၊ စုစုပေါင်းနှစ်စဉ်မြေငှားရမ်းခကျပ် ၀.၉၄၆ သန်းရှိမည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းမှကြမ်းခင်းတုံးများ၊ တံခါးများ၊ ကြေးဘောင်များကိုထုတ်လုပ်မည်ဖြစ်ပြီး ထုတ်လုပ်မှု၏ ၂၀ ရာခိုင်နှုန်းခန့်ကို နိုင်ငံခြားသို့တင်ပို့ရောင်းချရန်၊ ကျန်၈၀ ရာခိုင်နှုန်းခန့်ကို ပြည်တွင်းတွင် ရောင်းချရန် တင်ပြထားပါသည်။ ပုံမှန်နှစ်တွင် ပြည်တွင်းသို့ကြမ်းခင်း တုံးကုဗတန် ၁၆၉၄၊ တံခါးကုဗတန် ၇၂၅၀၊ ကြေးဘောင်ကုဗတန် ၇၂၅၀ ထုတ်လုပ်ဖြန့်ဖြူးရောင်းချမည်ဖြစ်ပြီး ပြည်ပသို့ကြမ်းခင်းတုံးကုဗတန် ၃၂၂၊ တံခါးကုဗတန် ၁၃၀၂နှင့် ကြေးဘောင်ကုဗ

တန် ၁၃၀၂ တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ ပြည်တွင်း ရောင်းဈေးနှုန်းများမှာ ကြမ်းခင်းတုံး တကုဗတန်လျှင်ကျပ် ၁၀၅၀၀၀၊ တံခါးတစ်ချပ်လျှင်ကျပ် ၁၀၅၀၀နှင့် ကြေးဘောင်တစ်ခုလျှင်ကျပ် ၃၀၀၀ဖြစ်ပါသည်။ ပြည်ပ ရောင်းဈေးနှုန်းများမှာ ကြမ်းခင်းတုံး တကုဗတန်လျှင် အမေရိကန်ဒေါ်လာ ၁၁၀၀၀၊ တံခါးတစ်ချပ်လျှင် အမေရိကန်ဒေါ်လာ ၁၁၂၅နှင့် ကြေးဘောင်တစ်ခုလျှင် အမေရိကန်ဒေါ်လာ ၁၃၀ဖြစ်ပါသည်။

၅။ ဤလုပ်ငန်းမှ ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေနှင့်အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | ကျပ်သန်း |
|---|---|
| (က) ဝင်ငွေ | ၂၆၆.၇၀ |
| (ခ) အသုံးစရိတ် | ၂၅၇.၈၀ |
| (ဂ) အသားတင်အမြတ် | ၈.၉၀ |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | ကျပ်သန်း |
|---|---|
| (က) ဝင်ငွေခွန် | ၃.၂၆ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် | ၅၂.၅၈ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှဝန်ထမ်း(၁၀၆) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၈။ ဤလုပ်ငန်း ဆောင်ရွက်ရန်အတွက် သစ်တောရေးရာဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ နိုင်ငံခြားကုမ္ပဏီများနှင့်လက်မှတ် ရေးထိုးရာတွင် စာချုပ်သက်တမ်းအား နှစ်(၃၀)အစား(၁၅)နှစ်သာ ကျင့်သုံး လျက်ရှိကြောင်းနှင့် ဇက်ပုံအတွက်လိုအပ်မည့်သစ်ကုန်ကြမ်းအား ၄င်းတို့အစီအစဉ်ဖြင့်သာ ဆောင်ရွက်ရန်လိုအပ် ကြောင်းအကြောင်းပြန်ကြားလာပါသည်။

၉။ Standard Myanmar Co., Ltd. သည်ဘဏ်အာမခံကြေး ကျပ် ၁.၀၂ သန်းကို စာချုပ်လက်မှတ် ရေးထိုးသည့်နေ့မှတစ်လအတွင်း မြန်မာ့သင်္ဘောကျင်းလုပ်ငန်းသို့ ပေးသွင်းမည်ဖြစ်ပါသည်။

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများသာ ဈှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိ ကြောင်း ကတိဝန်ခံချက် ပေးထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တွင် ဖော်ပြထားသည့်အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုလျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါ အဝင်တစ်ဆက်တည်း ( ၃ ) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ တွင် ဖော်ပြထားသည့်အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့် များအနက်လုပ်ငန်းနှင့်သင့်လျော်သည့်အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ကို ခံစားခွင့်ပြုရန် ကော်မရှင်မှဆုံးဖြတ်ခဲ့ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) MS Woodwork Co., Ltd. တည်ထောင်၍ သစ်ကုန်ချော ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်း ဆောင်ရွက်ရန်သဘောတူပါက မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များအနက်လုပ်ငန်း နှင့်စပ်လျဉ်းသည့်အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစားခွင့်ပြုရန်သဘောတူ-မတူ။

၁၃။ **ဒုတိယဝန်ကြီးချုပ်ရုံး၏ ထောက်ခံချက်။**

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

[ ဗိုလ်မှူးချုပ် မောင်မောင် ]
ဝန်ကြီး
ဒုတိယဝန်ကြီးချုပ်ရုံး
နှင့်
အထွေ၊ ရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။



* ဝိန် ၂၃-၁-၉၆။

ပြည်ထောင်စုမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/ ၇၄၈/ ၉၆ (၀၆၉၇)။
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဩဂုတ်လ ၂၁ ရက်။

## အမှာစာ

အကြောင်းအရာ။ ။ MS Woodwork Co.Ltd တည်ထောင်၍ သစ်ကုန်ချော ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့သဘောင်္ကျင်းလုပ်ငန်းနှင့် မြန်မာကုမ္ပဏီဖြစ်သည့် Standard Myanmar Company Ltd.တို့ ဖက်စပ်ပြု၍ အမ်အက်စ်ဝု(ဒ်)ဝါ(ခ်)ကုမ္ပဏီ လီမိတက် (MS Woodwork Co.,Ltd) တည်ထောင်၍ သစ်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၈-၇-၉၅) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀/၉၅) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

(က) စက်ရုံတည်နေရာနှင့် ဧရိယာသတ်မှတ်ချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ဥက္ကဋ္ဌလာရောက်လေ့လာကြည့်ရှုပြီးနောက်ပိုင်းတွင် သေချာစွာသတ်မှတ်ရန်၊

(ခ) မတည်ငွေရင်းအချိုးအစားကို မြန်မာ့သဘောင်္ကျင်းလုပ်ငန်းမှ ၅၅%၊ Standard Myanmar Co.,Ltd မှ ၄၅% ထည့်ဝင်ရန်၊

(ဂ) မြေငှားရမ်းခနှုန်းကို Covered area အတွက်တစ်စတုရန်းမီတာလျှင် ၁၅၀ ကျပ်နှုန်းနှင့် Uncovered area အတွက် ၈၀ ကျပ်နှုန်းသတ်မှတ်ရန်၊

(ဃ) မြေငှားရမ်းသက်တမ်းကို ကနဦး ၁၅နှစ်နှင့် နောက်ထပ် ၅ နှစ်တိုးမြှင့်ခွင့်ပြုရန်၊

(င) ဘဏ်အာမခံကြေး အဖြစ် Standard Myanmar Co. Ltd မှထည့်ဝင်မည့်မတည်ငွေရင်း၏ ၁၀%သတ်မှတ်ရန်၊

အထက်ပါသုံးဖြတ်ချက်များအရ ယင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ ခွေးဆိုင်း ငံ့ထားခဲ့ပါသည်။

၂။ ယခုအခါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ဥက္ကဋ္ဌနှင့် အဖွဲ့သည် မြန်မာ့သဘာဝကျင်းလုပ်ငန်း၊ သစ်သားလည်စက်ရုံသို့သွားရောက်စစ်ဆေးကြည့်ရှုပြီးဖြစ်ကြောင်းနှင့်အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်များအရသွိုင်းပြင်ဆင်မှုများပြီးစီးပြီဖြစ်ကြောင်း တင်ပြလာပါသည်။ သို့ပါ၍ ကော်မရှင်ဆုံးဖြတ်ချက်များနှင့်အညီ ပြင်ဆင်ထားသည့်အဆိုပြုချက်အသစ်ကို ပြန်လည်တင်ပြလာသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ဖက်စပ်လုပ်ငန်းသဘောတူစာချုပ် (မူကြမ်း)၊ မြေငှားရမ်းမှုသဘောတူစာချုပ် (မူကြမ်း)၊ ရှေ့နေချုပ်ရုံးသဘောထားမှတ်ချက် နှင့် ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများကို <u>နောက်ဆက်တွဲ (၁)</u> တွင်တင်ပြထားပါသည်။

၃။ ဤလုပ်ငန်း၏မတည်ငွေရင်းပမာဏနှင့်မတည်ငွေရင်း အချိုးအစားတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | မတည်ငွေရင်း ပမာဏ (ကျပ်သန်း) | မတည်ငွေရင်း အချိုးအစား |
|---|---|---|
| - မြန်မာ့သဘာဝကျင်းလုပ်ငန်း | ၁၂.၄၇ | ၅၅% |
| - Standard Myanmar Co., Ltd. | ၁၀.၂၀ | ၄၅% |
| စုစုပေါင်း | ၂၂.၆၇ | |

ယင်းတွင်မြန်မာ့သဘာဝကျင်းလုပ်ငန်းမှ ငွေသား ကျပ် ၀.၈၄ သန်း၊ အဆောက်အအုံနှင့်စက်ကိရိယာပစ္စည်းများ တန်ဘိုး ကျပ် ၁၁.၆၃ သန်း နှင့် Standard Myanmar Co., Ltd. မှ ငွေသား ကျပ် ၂.၆၂ သန်း၊ စက်ကိရိယာပစ္စည်း တန်ဘိုး ကျပ် ၇.၅၀ သန်း ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် မြန်မာ့သတ္တုကျင်းလုပ်ငန်းပိုင် ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ဆင်မလိုက်ရပ်ကွက်ရှိ မြေ (၂.၂၅) ဧက (၉၁၀၅.၄၃၅ စတုရန်းမီတာ) ကို ကနဦး ၁၅နှစ်ငှားရမ်း၍ ကုန်ချောပစ္စည်း ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး သစ်ကုန်ချောပစ္စည်း ထုတ်လုပ်ဆောင်ရွက်မည်ဖြစ်ပါသည်။ မြေငှားရမ်းခနှုန်းမှာ Covered area (၃၀၂၅.၈ စတုရန်းမီတာ) အတွက် တစ်နှစ်လျှင်တစ်စတုရန်းမီတာကို ကျပ် ၁၅၀နှုန်းဖြင့် ကျပ် ၀.၄၅၄သန်း၊ Uncovered area (၆၀၇၉.၆ စတုရန်းမီတာ) အတွက် တစ်နှစ်လျှင်တစ်စတုရန်းမီတာကို ၈၁ ကျပ်နှုန်းဖြင့်ကျပ် ၀.၄၉၂သန်း၊ စုစုပေါင်း နှစ်စဉ် မြေငှားရမ်းခကျပ် ၀.၉၄၆သန်း ရရှိမည်ဖြစ်ပါသည်။

၅။ ဤလုပ်ငန်းမှ ကြမ်းခင်းတုံးများ၊ တံခါးများ၊ ကြေးဘောင်များကို ထုတ်လုပ်မည်ဖြစ်ပြီး ထုတ်လုပ်မှု၏ ၂၀%ခန့်ကို နိုင်ငံခြားသို့တင်ပို့ရောင်းချရန်ကျန် ၈၀%ခန့်ကို ပြည်တွင်းတွင် ရောင်းချရန်တင်ပြထားပါသည်။ ပုံမှန်နှစ်တွင် ပြည်တွင်းသို့ ကြမ်းခင်းတုံး ကုဗတန် ၁၆၉၄၊ တံခါး ကုဗတန် ၇၂၅၈၊ ကြေးဘောင်ကုဗတန် ၇၂၅၈ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချမည်ဖြစ်ပြီး ပြည်ပသို့ ကြမ်းခင်းတုံး ကုဗတန် ၃၂၂၊ တံခါး ကုဗတန် ၁၃၈၂ နှင့် ကြေးဘောင်ကုဗတန် ၁၃၈၂ တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ ပြည်တွင်းရောင်းဈေးနှုန်းများမှာ ကြမ်းခင်းတုံး ၁ ကုဗတန်လျှင် ကျပ် ၁၀၅၀၀၀၊ တံခါးတစ်ချပ်လျှင် ကျပ် ၁၀၅၀၀နှင့် ကြေးဘောင်တစ်ခုလျှင် ကျပ် ၃၀၀၀ ဖြစ်ပါသည်။ ပြည်ပရောင်းဈေးနှုန်းများမှာ ကြမ်းခင်းတုံး ၁ ကုဗတန်လျှင် အမေရိကန်ဒေါ်လာ ၁၀၀၀၊ တံခါးတစ်ချပ်လျှင် အမေရိကန်ဒေါ်လာ ၁၂၅ နှင့် ကြေးဘောင်တစ်ခုလျှင် အမေရိကန်ဒေါ်လာ ၃၀ ဖြစ်ပါသည်။

၆။ ဤလုပ်ငန်းမှ ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေနှင့်အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | ကျပ်သန်း |
|---|---|
| (က) ဝင်ငွေ | ၂၆၆.၇၀ |
| (ခ) အသုံးစရိတ် | ၂၅၇.၅၃ |
| (ဂ) အသားတင်အမြတ် | ၉.၁၇ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုး အမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | ကျပ်သန်း |
|---|---|
| (က) ဝင်ငွေခွန် | ၃.၂၄ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် | ၅၂.၆၅ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း(၁၀၆) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်း ဆောင်ရွက်ရန်အတွက် သစ်တောရေး ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ နိုင်ငံခြားကုမ္ပဏီများနှင့်လက်မှတ်ရေးထိုးရာတွင် စာချုပ်သက်တမ်းအား နှစ်(၃၀)အစား (၁၅)နှစ်သာကျင့်သုံး လျက်ရှိကြောင်း နှင့်စက်ရုံအတွက် လိုအပ်မည့်သစ်ကုန်ကြမ်းအား ၎င်းတို့ အစီအစဉ်ဖြင့်သာ ဆောင်ရွက်ရန်လိုအပ် ကြောင်း အကြောင်း ပြန်ကြား လာပါသည်။

၁၀။ Standard Myanmar Co., Ltd. သည်ဘဏ်အာမခံ ကြေး ကျပ် ၁.၀၂ သန်းကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ တစ်လအတွင်း မြန်မာ့သဏ်ာကျင်း လုပ်ငန်းသို့ပေးသွင်းမည်ဖြစ်ပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလိုပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ် အပါအဝင်ကစ်ဆက်တည်း (၃)နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေး ရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို တောင်းခံထားရာ အောက်ပါအတိုင်း သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ၁၃(က)အရ၊ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သောနိုင်ငံခြား ငွေပမာဏအပေါ်မူတည်၍ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံမှုမပါရှိသည့်အတွက် အကျုံးဝင်ခြင်းမရှိဟုသုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေပေါ်တွင် ၅၀ % ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ပထမဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးသည့်နောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့် ပြည်တွင်းပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကိုလုပ်ငန်း အကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါ ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဃ) အရ နိုင်ငံတော်အတွက်အဓိကလိုအပ်သည် ဟု သတ်မှတ်သည့် ကုန်ထုတ်လုပ်မှုလုပ်ငန်း သို့မဟုတ် ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပြီး အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ်သင့်လျော်သော ကာလအထိဝင်ငွေခွန်သက်သာခွင့် တောင်းခံခြင်းကိုအကျုံးဝင်ခြင်း မရှိဟု သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်တွင်ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကိုအမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံရန်တင်ပြလာသည့်အခါ ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့်မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှနှုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်ပမှတင်သွင်းသော စက်ပစ္စည်းကိရိယာများ နှင့်လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင်အခွန်အကောက်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ နှင့်ပတ်သက်၍ ခွင့်ပြုမိန့်ရရှိပြီးသည့်နောက်မှ တင်သွင်းသည့် ရင်းနှီးကုန်ပစ္စည်းများအပေါ်တွင်သာ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

သို့ဝက်

- ဥပဒေပုဒ်မ ၁၃(ဈ)အရ ပထမ(၃)နှစ်အတွက်ကုန်ထုတ်လုပ်ရန် တင်သွင်းခွင့်ပြုသည့် ကုန်ကြမ်းနှင့်လုပ်ငန်းသုံးပစ္စည်းများအပေါ် တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကင်း လွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့် မှာ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၏ ၂၀-၅-၉၆ နေ့စွဲ ပါ အမိန့်ကြော်ငြာစာအမှတ်၊ ၇၇/၉၆အရ အကျုံးဝင်ပြီးဖြစ်ပါ သည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) MS Woodwork Co. Ltd. ကတည်ထောင်၍ သစ်ကုန်ချော ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြု ရန် သဘောတူ-မတူ။

(ခ) သဘောတူပါက အထက်အပိုဒ်(၁၁)ပါ အခွန်ဆိုင်ရာကင်း လွတ်ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုရန်သဘော တူ-မတူ။

အတွင်းရေးမှူး (ကိုယ်စား)

[ မောင်မောင်ရီ၊ တွဲဖက်အတွင်းရေးမှူး ]

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

သို့ဝက်

*ဇ၂၀/၈/၉၆။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

စာအမှတ်၊ ရက-၈(က)၀၁၇/၉၆(၁၇၄၆)
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဩဂုတ်လ (၂၁)ရက်

## အမှာစာ

အကြောင်းအရာ။ ။ကုမ္ပဏီလီမိတက်များနှင့်အစုစပ်လုပ်ငန်းများ မှတ်ပုံတင်ခွင့်ပြုခဲ့ခြင်းနှင့်ကုမ္ပဏီ၏လုပ်ငန်း ရည်ရွယ်ချက်ပြောင်းလဲခွင့်ပြုခဲ့ခြင်းတို့ကိုအတည် ပြုပေးပါရန်တင်ပြခြင်း ။

၁။ ၁၉-၈-၉၆ ရက်နေ့တွင်ကျင်းပခဲ့သောမြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၄/၉၆ ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့ အောက်ဖော်ပြပါမြန်မာကုမ္ပဏီလီမိတက်များ၊ အစုစပ်လုပ်ငန်းများနှင့် နိုင်ငံခြားကုမ္ပဏီလီမိတက်များကိုမှတ်ပုံတင်ခွင့်ပြုရန်တင်ပြခဲ့ပါသည် ။

(က) မြန်မာကုမ္ပဏီလီမိတက်များ

| | |
|---|---|
| - ရောင်းဝယ်ရေးလုပ်ငန်း | ၉၉ ခု |
| - ဝန်ဆောင်မှုလုပ်ငန်း | ၁၉ ခု |
| - စက်မှုလက်မှု၊ ထုတ်လုပ်မှုနှင့် ဆောက်လုပ်ရေးလုပ်ငန်း | ၁၉ ခု |
| - ခရီးသွားလုပ်ငန်း | ၉ ခု |
| - ကျောက်မျက်လုပ်ငန်း | ၁၉ ခု |
| စုစုပေါင်း | ၁၆၅ ခု |

၂-သို့

(ခ) အစုစပ်လုပ်ငန်းများ

| | |
|---|---|
| – ရေ ာင်းဝယ်ရေးလုပ်ငန်း | ၁ ခု |
| – ဝန်ဆောင်မှုလုပ်ငန်း | ၁ ခု |
| စုစုပေါင်း | ၂ ခု |

(ဂ) နိုင်ငံခြားကုမ္ပဏီလီမိတက်များ

| | |
|---|---|
| – ရောင်းဝယ်ရေးလုပ်ငန်း | ၁၃ ခု |
| – ဝန်ဆောင်မှုလုပ်ငန်း (ရုံးခွဲ – ၃ – ခုအပါအဝင်) | ၅ ခု |
| စုစုပေါင်း | ၁၈ ခု |

၂။ ယင်းအစည်းအဝေးတွင်မြန်မာကုမ္ပဏီ ရောင်းဝယ်ရေးလုပ်ငန်း (၉၉) ခု၊ ဝန်ဆောင်မှုလုပ်ငန်း (၁၉) ခု၊ စက်မှုလက်မှု၊ ထုတ်လုပ်မှုနှင့် သတ္တုတူးဖော်ရေးလုပ်ငန်း (၁၉) ခု၊ ခရီးသွားလုပ်ငန်း (၉) ခု၊ ကျောက်မျက်လုပ်ငန်း (၁၉) ခု၊ စုစုပေါင်း မြန်မာကုမ္ပဏီလီမိတက် (၁၆၅) ခုကိုလည်းကောင်း၊ အစုစပ်လုပ်ငန်းတွင် ရောင်းဝယ်ရေးလုပ်ငန်း (၁) ခုနှင့်ဝန်ဆောင်မှုလုပ်ငန်း (၁) ခု၊ စုစုပေါင်း အစုစပ်လုပ်ငန်း (၂) ခုကိုလည်း ကောင်း ၊ နိုင်ငံခြားကုမ္ပဏီ ရောင်းဝယ်ရေးလုပ်ငန်း (၁၃) ခုနှင့်ဝန်ဆောင်မှုလုပ်ငန်း (၅) ခု၊ စုစုပေါင်း နိုင်ငံခြားကုမ္ပဏီလီမိတက် (၁၈) ခုတို့ကိုလည်း ကောင်း ၊ မှတ်ပုံတင်ခွင့်ပြုခဲ့ပါသည် ။

၃။ သီးခြားအမှုတစ်ခုဖြစ်၍တင်ပြခဲ့သော လေကြောင်း ပို့ဆောင်ရေးလုပ်ငန်း ဆောင်ရွက်မည့်နိုင်ငံခြားကုမ္ပဏီရုံးခွဲ Royal Brunei Airlines Sdn Bhd – ၏လုပ်ငန်းရည်ရွယ်ချက်တွင် such as airport landing station hanger and garage services ထည့်သွင်း ဖော်ပြထားသော အချက်နှင့် ပတ်သက်၍ ... ကိုပါယ်ဖျက်စေလျက်မှတ်ပုံတင်ခွင့်ပြုခဲ့ပါသည် ။

၃–သို့

၄။ ရောင်းဝယ်ရေးလုပ်ငန်း ကုမ္ပဏီတစ်ခုဖြစ်သော နိုင်ငံခြားကုမ္ပဏီ Myanmar Narsco Co.,Ltd ၏ ရောင်းဝယ်ရေးလုပ်မည့်သွင်းကုန်၊ ထုတ်ကုန်၊ ကုန်ပစ္စည်းအမျိုးအစားများတို့ ဖြည့်ပြင်ဆင်ခွင့်ပြုရန်ကိစ္စကို သီးခြားအမှာစာဖြင့်တင်ပြခဲ့ရာ၊ အစားထိုးပြင်ဆင်ခွင့်ပြုရန်သဘောတူခဲ့ပါသည်။

၅။ သို့ပါ၍၊ ၁၉-၈-၉၆ ရက်နေ့တွင်ကျင်းပခဲ့သော ၁၁၄/၉၆ ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးက နိုင်ငံခြားကုမ္ပဏီ Myanmar Narsco Co.,Ltd ၏ သွင်းကုန်၊ ထုတ်ကုန်ကုန်ပစ္စည်းအမျိုးအစားတို့ ဖြည့်ပြင်ဆင်ခွင့်ပြုရန်သဘောတူညီခဲ့ခြင်းနှင့် အောက်ပါကုမ္ပဏီလီမိတက်များနှင့်အစုစပ်လုပ်ငန်းများ မှတ်ပုံတင်ခွင့်ပြုခဲ့ခြင်းကိုအတည်ပြုပေးပါရန်တင်ပြအပ်ပါသည်။

(က) မြန်မာကုမ္ပဏီလီမိတက်များ

| | |
|---|---|
| - ရောင်းဝယ်ရေးလုပ်ငန်း | ၉၉ ခု |
| - ဝန်ဆောင်မှုလုပ်ငန်း | ၁၉ ခု |
| - စက်မှုလက်မှု၊ ထုတ်လုပ်မှုနှင့် ဆောက်လုပ်ရေးလုပ်ငန်း | ၁၉ ခု |
| - ခရီးသွားလုပ်ငန်း | ၉ ခု |
| - ကျောက်မျက်လုပ်ငန်း | ၁၉ ခု |
| စုစုပေါင်း | ၁၆၅ ခု |

(ခ) အစုစပ်လုပ်ငန်းများ

| | |
|---|---|
| - ရောင်းဝယ်ရေးလုပ်ငန်း | ၁ ခု |
| - ဝန်ဆောင်မှုလုပ်ငန်း | ၁ ခု |
| စုစုပေါင်း | ၂ ခု |

၄သို့

(ဂ) နိုင်ငံခြားကုမ္ပဏီလီမိတက်များ

| | |
|---|---|
| - ရောင်းဝယ်ရေးလုပ်ငန်း | ၁၃ ခု |
| - ဝန်ဆောင်မှုလုပ်ငန်း<br>(ပုံး နွဲ - ၄ - ခုအပါအဝင်) | ၆ ခု |
| စုစုပေါင်း | ၁၉ ခု |

( မောင်မောင်ရီ )

ညွှန်ကြားရေးမှူးချုပ်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ဥက္ကဋ္ဌနှင့်အဖွဲ့တို့သည် ၁၉၉၆ ခုနှစ်၊ ဇူလိုင်လ ၂၉ ရက်နေ့တွင်မြန်မာ့သင်္ဘောကျင်းလုပ်ငန်း သစ်သားယန္တစက်ရုံသို့လာရောက်စစ်ဆေးကြည့်ရှုရာတွင် ၁၉၉၅ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်နေ့စွဲပါ ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀/၉၅ ကြိမ်မြောက်ကြိုတင်ညှိနှိုင်းစည်းဝေးဆုံးဖြတ်ချက်အရ၊ ပြင်ဆင်ဆောင်ရွက်ပြီးစီးမှုအခြေအနေ (၄) ရပ်ကို အောက်ပါအတိုင်း တင်ပြခဲ့ပါသည်။

| ဆောင်ရွက်ပြီးစီးမှုအခြေအနေ | စာချုပ်အပိုဒ် |
|---|---|
| (က) မတည်ရင်းနှီးငွေအမျိုးအစားကိုမြန်မာ့သင်္ဘောကျင်းလုပ်ငန်းမှ ၅၅ % နှင့်စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်မှ ၄၅ % သတ်မှတ်ခြင်း | (၈.၂.၈.၃) |
| (ခ) မြန်မာ့သင်္ဘောကျင်းလုပ်ငန်းနှင့်ပတ်သက်သည့် မြေများကိုချန်လှပ်၍ မြေဧရိယာကို ၂.၂၅ ဧက သတ်မှတ်ပြီး မြေငှားရမ်းခနှုန်းမှာ Covered area အတွက်တစ်စတုရန်းမီတာလျှင် ၁၅၀ ကျပ် နှင့် Uncovered area အတွက် ၈ ကျပ် နှုန်း သတ်မှတ်ခြင်း | (၁၁.၃) |
| (ဂ) မြေငှားရမ်းသက်တမ်းကိုကနဦး ၁၅ နှစ်နှင့် နောက်ထပ် ၅ နှစ်တိုးမြှင့်ခွင့်ပြုခြင်း | (၁၁.၄) |
| (ဃ) ဘဏ်အာမခံကြေးအဖြစ် Standard Myanmar Co. မှထည့်ဝင်မည့်မတည်ငွေရင်း၏ ၁၀ % သတ်မှတ်ခြင်း | (၁၅.၁) |

၄။ ဖြည့်ဆောင်ရန်မြန်မာနိုင်ငံတော်ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Standard Myanmar Co. Ltd. ၏ ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများ လိုအပ်သဖြင့် တောင်းခံခြင်းကိုလည်း မြန်မာ့သင်္ဘောကျင်းလုပ်ငန်းမှ ၁၉၉၅ ခုနှစ်၊ ဇူလိုင်လ ၂၈ ရက်နေ့စွဲပါစာအမှတ်၊ ၂၂၁၂-၉၆-၂ ဖြင့် အောက်ပါအထောက်အထားများကိုတင်ပြခဲ့ပါသည်။

(က) ကုမ္ပဏီ၏မှတ်ပုံတင်လက်မှတ်

(ခ) ကုမ္ပဏီ၏ဘဏ်စာရင်းလက်ကျန်သက်သေခံလက်မှတ်

(ဂ) ကုမ္ပဏီပိုင်ဆိုင်သောစက်ပစ္စည်းများစာရင်း

**Standard Myanmar Co.Ltd.** သည်ဤဖက်စပ်လုပ်ငန်းဖြင့်သာလုပ်ငန်း စတင်လည်ပတ်ဆောင်ရွက်ရန်ဖြစ်သဖြင့်ဘဏ္ဍာရေး ရှင်းတမ်း များ ကိုမူတင်ပြ နိုင်ခြင်း မရှိသေး ပါကြောင်း ဖော်ပြလိုပါသည်။

၅။ မူလအဆိုပြုတင်ပြစဉ်အချိန်မှစ၍တစ်နှစ် ကျော်ကြာမြင့်ခဲ့ပြီဖြစ်ပြီး မြန်မာနိုင်ငံရင်း နှီး မြှုပ်နှံမှုကော်မရှင်ဥက္ကဋ္ဌမှလည်း မြန်မာ့သတ္တုတွင်း လုပ်ငန်း သို့လာရောက်စစ်ဆေး ပြီး ဖြစ်ရပ်ပြန်လည်ပြင်ဆင်မှုများ နှင့်အတူအဆိုပြုချက်အသစ် ကိုထပ်မံတင်ပြအပ်ပါသည်။ ဖော်ပြပါအဆိုပြုချက်အား ပြည်ထောင်စုမြန်မာနိုင်ငံတော် ရင်း နှီး မြှုပ်နှံမှုကော်မရှင်သို့တင်ပြနိုင်ရန်အတွက်အဆိုပြုလွှာ ၃၅ စောင်ကိုဖြည့်စွက်ပြီး တင်ပြအပ်ပါသည်။ မြန်မာ့သတ္တုတွင်း လုပ်ငန်း နှင့် Standard Myanmar Co. Ltd. တို့ကုမ္ပဏီဖွဲ့စည်း မှုနှင့်အခြား သက်ဆိုင်သောစာရွက်စာတမ်း များကိုလည်း တစ်ပါတည်း ပူးတွဲတင်ပြအပ်ပါသည်။

၆။ ပြည်ထောင်စုမြန်မာနိုင်ငံ တော်မြန်မာနိုင်ငံသား များ ဥပဒေပုဒ်မ ၁၂ နှင့်၁၃အရ၊ ရင်း နှီး မြှုပ်နှံမှုအပေါ်အခွန်ကင်း လွတ်ခွင့်နှင့်သက်သာခွင့် များ ခံစား ခွင့်ပြုပါရန် လျှောက်ထား အပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )
( တင်မောင်ဝိ – ရုံး အဖွဲ့မှူး )

မိတ္တူကို –

– ဦး ဆောင်ညွှန်ကြား ရေး မှူး
မြန်မာ့သတ္တုတွင်း လုပ်ငန်း

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

ရက်စွဲ၊ ၁၉၉၆ ခုနှစ်ဩဂုတ်လ (၂၀) ရက်

အကြောင်းအရာ။ ။ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ကတိဝန်ခံချက်ပြုခြင်း၊

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ ကျွန်တော်များ စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်သည်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ၊ ရန်ကုန်တိုင်း၊ ကမာရွတ်မြို့နယ်၊ မြန်မာ့သဘောကျင်းလုပ်ငန်း၌ မြန်မာ့သဘောကျင်းလုပ်ငန်းနှင့် သစ်သားတည်လုပ်ငန်း ဖက်စပ်ဆောင်ရွက်ခွင့်ပြုပါရန် ခွင့်ပြုမိန့်( Permit )ထုတ်ပေးနိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါလုပ်ငန်းသည် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံသူများသာ ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားသား မည်သူတစ်ဦးတစ်ယောက်မျှ ပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံဂတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

(သိန်းထွန်း)
ဥက္ကဋ္ဌ
စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်

မြန်မာ့သစ်တော်ကျွန်းလုပ်ငန်း

နှင့်

စကင်းဒတ်မြန်မာကုမ္ပဏီလီမိတက်

တို့၏

# သစ်အခြေခံပစ္စည်းထုတ်လုပ်ရေးဖက်စပ်လုပ်ငန်း

ပဋိညာဉ်စာချုပ်

ရန်ကုန်မြို့။ ။၁၉၉၆ ခုနှစ် လ ရက်

(ခ) မြန်မာ့သဘော်ကျင်းလက်ရှိအဆောက်အဦး၊ စက်ပစ္စည်းများ နှင့်စက်ကရိယာများ၏ တန်ဖိုး (နောက်ဆက်တွဲ - ခ)

(ဂ) (၁) စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်၏ သစ်လုပ်ငန်း စက်ပစ္စည်းများ၏ တန်ဖိုး (နောက်ဆက်တွဲ - ဂ)

(၂) မြန်မာ့သဘော်ကျင်းလုပ်ငန်း၏လက်ရှိစက်ပစ္စည်းများနှင့် စက်ကရိယာများ (နောက်ဆက်တွဲ - ဂအဆက်)

(ဃ) ဖက်စပ်လုပ်ငန်း၏ သစ်အခြေခံစက်မှုလုပ်ငန်း၏ဖွဲ့စည်းပုံ ဇယား (နောက်ဆက်တွဲ - ဃ)

(င) နှစ်အလိုက်ဝန်ထမ်းများခန့်ထားခြင်း (နောက်ဆက်တွဲ - င)

၂၆။ ဌားရမ်းခြင်းသဘောကတိတူစာချုပ် (နောက်ဆက်တွဲ - စ)

၂၇။ ရှေ့နေချုပ်ရုံးသဘောထားမှတ်ချက် (နောက်ဆက်တွဲ - ဆ)

၂၈။ တွက်ချက်မှုစာရင်းဇယားများ (နောက်ဆက်တွဲ - )

**(Appendix 1to Appendix 9)**

**မြန်မာ့သစ်တောကျောင်းလုပ်ငန်း**

**နှင့်**

**စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်**

**တို့၏**

## သစ်အခြေခံပစ္စည်းထုတ်လုပ်ရေး ဖက်စပ်လုပ်ငန်း

## ပဋိညာဉ်စာချုပ်

ဤဖက်စပ်လုပ်ငန်း ပဋိညာဉ်စာချုပ်ကို ရန်ကုန်မြို့၌ ၁၉၉၆ ခုနှစ်　　　လ　　ရက်နေ့တွင်-

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၏ ပို့ဆောင်ရေးဝန်ကြီးဌာန လက်အောက်ရှိ၊ မြန်မာ့သစ်တောကျောင်းလုပ်ငန်းသည်၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့၊ ကမာရွက်မြို့နယ်၊ ဆင်မလိုက်ရပ်ကွက်တွင် တရားဝင်တည်ရှိ၍ ထိုလိပ်စာမှာ တရားဝင်လိပ်စာဖြစ်ပါသည်။ (နောင်တွင် အဖွဲ့အစည်း　　က　ဟု ခေါ်တွင်စေရမည်၊ အဆိုပါအဖွဲ့အစည်း က ဟူသောစကားရပ်တွင် အဆိုပါအဖွဲ့အစည်းနှင့် လုပ်ငန်းကို ဆက်ခံသော အဖွဲ့အစည်းနှင့် ခွင့်ပြုလွှဲအပ်သော အဖွဲ့အစည်းများ၊ တရားဝင် ကိုယ်စားလှယ်များလည်း အကျုံးဝင်ပါသည်) ထိုအဖွဲ့အစည်းကို ကိုယ်စားပြုသူ ဦးဆောင်ညွှန်ကြားရေးမှူး ဦးပါစီမောင်မောင်က ပထမတစ်ဖက်နှင့်-

ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် တည်ထောင်ဖွဲ့စည်းထားပြီးဖြစ်သော ပုဂ္ဂလိကကုမ္ပဏီလီမိတက်ဖြစ်သည့် စတင်းဒတ်မြန်မာ ကုမ္ပဏီလီမိတက်၊ အမှတ်၁၂(က)၊ အင်းယားမြိုင်လမ်း၊ ဗဟန်းစာတိုက်၊ ရန်ကုန်မြို့၊ ပြည်ထောင်စုမြန်မာနိုင်ငံတော် (နောင်တွင်အဖွဲ့အ စည်း　ခ　ဟု ခေါ်တွင်စေရမည်။ အဆိုပါအဖွဲ့အစည်း　ခ　ဟူသောစကားရပ်တွင် ၎င်းအဖွဲ့အစည်းကို ဆက်ခံသူများ လွှဲအပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များလည်း အကျုံးဝင်ပါသည်။) ကို ကိုယ်စားပြုသူ ဦးဆောင်ညွှန်ကြားရေးမှူး ဦးဘိုကျော်က အခြားတစ်ဖက်တို့သည် အောက်ဖော်ပြပါ စည်းကမ်းချက်များ သတ်မှတ်၍ သစ်အခြေခံ ပစ္စည်း ထုတ်လုပ်ရေး ဖက်စပ်လုပ်ငန်းဆောင်ရွက်ရန် ဤစာချုပ်ကို ချုပ်ဆိုကြပါသည်။

### အခန်း(၁)

### <u>ဖက်စပ်လုပ်ငန်း ကုမ္ပဏီဖွဲ့စည်းတည်ထောင်ခြင်း</u>

၁-၁　ဖော်ပြပါအဖွဲ့အစည်းနှစ်ဖွဲ့တို့က မြန်မာ့သစ်တောကျောင်း သစ်သားထည်လုပ်ငန်း (အမ်အက်စ်ဝု(ဒ်)ဝါ(ခ်) ကုမ္ပဏီလီမိတက်) ဖက်စပ်ကုမ္ပဏီကို ၁၉၅၀ ပြည့်နှစ်၊ အထူးကုမ္ပဏီအက်ဥပဒေအရ မြန်မာနိုင်ငံတွင် အများနှင့်မသက်ဆိုင်သော ဖက်စပ်ကုမ္ပဏီဖွဲ့စည်းတည်ထောင်၍ မြန်မာ့သစ်တောကျောင်းပိုင်လုပ်ငန်းနယ်မြေရှိ တည်ရှိပြီးသား သစ်ထုတ်လုပ်ရေးစက်ကိရိယာများ(နောက်ဆက်တွဲ-ဂ) အပြင် အခြားစက်ကိရိယာများ တိုးချဲ့သုံးစွဲ၍ တန်ဘိုးမြင့် သစ်ပစ္စည်းများကို ထုတ်လုပ်ပြီး ပြည်တွင်းနှင့်ပြည်ပရှိ ဈေးကွက်များတွင် ကူးသန်းရောင်းဝယ်မည် ဖြစ်ပါသည်။

## အခန်း(၄)
## <u>အမ်အက်စ် ဝု(ဒ်)ဝါ(ခ်) ကုမ္ပဏီလီမိတက်( ဖက်စပ်ကုမ္ပဏီ)၏တာဝန်များ</u>

အမ်အက်စ် ဝု(ဒ်)ဝါ(ခ်) ကုမ္ပဏီလီမိတက် (ဖက်စပ်ကုမ္ပဏီ)၏ တာဝန်များမှာ-

(၄.၁) လိုအပ်သော ကုန်ကြမ်းများကို ရှာဖွေပေးရန်။

(၄.၂) သစ်လုံးများခွဲစိပ်ခြင်း၊ ခွဲသားများပြန်လည်ခွဲခြမ်းခြင်းများအတွက် လိုအပ်သော လုပ်ကိုင်ခွင့်လိုင်စင်များ ရယူပေးရန်။

(၄.၃) ဖက်စပ်ကုမ္ပဏီ၏ အကျိုးအမြတ်များရရှိစေရန်နှင့် အောင်မြင်စေရန်အတွက် အကောင်အထည်ဖေါ်ရန်။

(၄.၄) လက်ရှိရင်းနှီးထည့်ဝင်ငွေထက် ပိုမိုသည့်ရင်းနှီးထည့်ဝင်ငွေများလိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ မြန်မာ့သဘောကျင်းလုပ်ငန်းနှင့် စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်တို့သည် ရင်းနှီးမြှုပ်နှံမှုငွေ ထပ်မံရှာဖွေကြရန် ဖြစ်ပါသည်။

## အခန်း(၅)
## <u>အာမခံထားရှိခြင်း</u>

(၅.၁) ဖက်စပ်လုပ်ငန်းအတွက် လိုအပ်သော အာမခံများကို မြန်မာ့အာမခံ ဥပဒေ၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေများနှင့်အညီ ထားရှိရမည်။

## အခန်း(၆)
## <u>ဖက်စပ်ကုမ္ပဏီ၏ မြှုပ်နှံမှုမတည်ငွေရင်း</u>

(၆.၁) ခွင့်ပြုရင်းနှီးငွေ ကျပ် ၁၀၀,၀၀၀,၀၀၀/- (ကျပ်သန်းတစ်ရာတိတိ)

(၆.၂) ပေးသွင်းပြီးရင်းနှီးငွေ ကျပ် ၂၂,၆၆၆,၀၀၀/- (ကျပ်နှစ်ဆယ့်နှစ်သန်း၊ ခြောက်သိန်းခြောက်သောင်း၊ ခြောက်ထောင်တိတိ) ဖြစ်ပါသည်။

နှစ်သောင်းခုနှစ်ထောင်တိတိ) နှင့် ငွေသားထည့်ဝင်ငွေ ကျပ် ၂,၆၂၃,၀၀၀/-(ကျပ်နှစ်သန်း ခြောက်သိန်း၊ နှစ်သောင်း၊ သုံးထောင်တိတိ) ကို အကျိုးတူရှယ်ယာ ၄၅%(လေးဆယ့်ငါးရာခိုင်နှုန်း) သတ်မှတ်ပါသည်။

## အခန်း(၉)
## အမြတ်ခွဲဝေခြင်း

(၉.၁) ဖက်စပ်လုပ်ငန်းမှ ဖြစ်ပေါ်လာမည့်အမြတ်ကို မတည်ထည့်ဝင်ငွေအချိုးအစားအတိုင်း ( ၅၅း ၄၅) ရာခိုင်နှုန်းခွဲဝေယူကြရန်၊ နှစ်ဖက်အဖွဲ့အစည်းတို့က သဘောတူညီကြပါသည်။

## အခန်း(၁၀)
## ဖက်စပ်ကုမ္ပဏီအတွက် မြန်မာ့သဘောကျင်းလုပ်ငန်းပိုင်မြေကို ငှားရမ်းခြင်း

(၁၀.၁) မြန်မာ့သဘောကျင်းလုပ်ငန်းသည် ၎င်းပိုင်မြေကို နောက်ဆက်တွဲ(က)တွင် ဖော်ပြထားသည့် အတိုင်း အမ်အက်စ် ၀၃(ဒ်)ဝါ(ခ်)ကုမ္ပဏီလီမိတက် (ဖက်စပ်ကုမ္ပဏီ) အတွက် မြန်မာ့ရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ဖြင့် ငှားရန်လက်ခံထား ပါသည်။

(၁၀.၂) ဖက်စပ်ကုမ္ပဏီမှ မြန်မာ့သဘောကျင်းတွင် နောက်ထပ် လုပ်ငန်းတိုးချဲ့ရန်အတွက် မြေကို လိုအပ်လျှင် နောက်ဆက်တွဲ(က)တွင် သဘောတူထားသည့်အတိုင်း ငှားရမ်းပိုင်ခွင့်ရှိသည်။

(၁၀.၃) အစိုးရ၏ မြေငှားရမ်းခွင့် မူဝါဒအပေါ် အခြေခံလျက် မြေငှားရမ်းခကို နောက်ဆက်တွဲ(က)တွင် ဖော်ပြထားသည့် မြေဧရိယာအပေါ် မြေငှားရမ်းခမှာ ပထမ (၅)နှစ် အတွင်း တစ်နှစ်လျှင် ကွင်းပြင်ဧရိယာ စတုရန်းမီတာ ၆၀၇၉.၆အတွက် တစ်စတုရန်းမီတာ လျှင် ကျပ်၈ဒ်/-နှုန်းဖြင့်လည်းကောင်း၊ အဆောက်အဦးတည်ရှိသော ဧရိယာစတုရန်းမီတာ ၃၀၂၅.၈အတွက် တစ်စတုရန်းမီတာလျှင် ကျပ်၁၅ဝ/-နှုန်းဖြင့် စုစုပေါင်းဧရိယာ ၂.၂၅ဧက အတွက် ကျပ်၉၄၆,၃၀၀/-(ကျပ်ကိုးသိန်း လေးသောင်း ခြောက်ထောင်သုံးရာတိတိ) ဖြစ်၍ ကနဦး (၁၅)နှစ်အတွက် ငှားရမ်းရန် မြန်မာ့သဘောကျင်းလုပ်ငန်းက သဘောတူပါသည်။ ငှားရမ်းခကို (၅)နှစ်လျှင်တစ်ကြိမ် နှစ်ဦးနှစ်ဖက်လက်ရှိနှုန်းထားထက် ၁၅ရာခိုင်နှုန်း ထက် မပိုသော နှုန်းထားဖြင့် ပြန်လည်ညှိနိုင်း သုံးသပ်မည်။ ငှားရမ်းစာချုပ်များ နှင့် စပ်လျဉ်း၍ ငှားရမ်းပြီး သဘောတူကတိစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ ဆောင်ရွက်ရန် နှစ်ဦးနှစ်ဖက် သဘောတူညီကြပါသည်။

(၁၀.၄) (၁၅)နှစ် ငှားရမ်းခြင်း ပြီးစီးပြီးနောက် ဖက်စပ်ကုမ္ပဏီက ငှားရမ်းခြင်းကာလကို တိုးမြှင့်လို လျှင် နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ နောက်ထပ်(၅)နှစ်သက်တမ်းတိုးမြှင့်ခွင့်ရှိသည်။ ထိုသို့ သက်တမ်းတိုးမြှင့်လိုလျှင် (၁၅)နှစ် မတိုင်မီ (၃)နှစ် (သုံးနှစ်)ကြိုတင်၍ စာဖြင့် အကြောင်း ကြားရမည်။ အသစ်ငှားရမ်းခြင်းကာလအတွက် ပဋိညာဉ်အသစ်ကို ပြန်လည်ချုပ်ဆို၍ ငှားရမ်းခ အသစ် နှုန်းဖြင့် ပြင်ဆင်ညှိနိုင်းရမည်။

## အခန်း(၁၃)
## ဝန်ထမ်းများခန့်ထားခြင်း

(၁၃.၁) နိုင်ငံသားများကို ဦးစားပေး၍ ခန့်ထားခြင်းဖြင့် လုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်ရန် ရည်ရွယ်ပါသည်။

(၁၃.၂) နိုင်ငံသားများ အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိရေးကိုဦးတည်၍ အလုပ်သမားများခန့်ထားခြင်းကို မျက်ခြည်မပြတ် ဂရုစိုက်ရန်ရည်ရွယ်သည်။

(၁၃.၃) အလုပ်သမားများ ခန့်ထားသည့်အရေအတွက်များကို နောက်ဆက်တွဲ(င)တွင် နှစ်အလိုက်ဖော်ပြထားပါသည်။

## အခန်း(၁၄)
## ဘဏ်အာမခံကြေးပေးသွင်းခြင်း

(၁၄.၁) စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်သည် မိမိထည့်ဝင်ရမည့်အစုငွေ၏ ၁၀ ရာခိုင်နှုန်းဖြစ်သော ကျပ် ၁၀၂၀၀၀၀/- (ကျပ်တစ်သန်းနှစ်သောင်းတိတိ) ကို ဘဏ်အာမခံကြေးအဖြစ် မြန်မာ့သတ္တုကျင်းလုပ်ငန်းက သတ်မှတ်ပေးသည့် ဘဏ်တစ်ခုခုတွင် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ တစ်လအတွင်းထားရှိ၍ ဘဏ်အာမခံလက်မှတ်ကိုရယူပြီး မြန်မာ့သတ္တုကျင်းလုပ်ငန်းသို့ ပေးအပ်ရမည်။ ၄င်းဘဏ်အာမခံလက်မှတ်ကို ကုန်ထုတ်လုပ်ငန်းစတင်သောအခါ စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်က ပြန်လည်ရယူပြီး အာမခံခြင်းမှ ကင်းလွတ်ခွင့်ရှိသည်။

(၁၄.၂) စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်သည် သတ်မှတ်ကာလအတွင်း လုပ်ငန်းဆောင်ရွက်ရန် ပျက်ကွက်ခဲ့လျှင် မြန်မာ့သတ္တုကျင်းလုပ်ငန်းက ယင်းဘဏ်အာမခံကြေးငွေများကို သိမ်းယူခွင့်ရှိစေ ရမည်။

## အခန်း(၁၅)
## မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များ

(၁၅.၁) မလွှဲမရှောင်နိုင်သည့် သဘာဝဘေးအန္တရာယ်များဖြစ်သည့် ရေကြီးခြင်း၊ မီးလောင်ခြင်း၊ လေမုန်တိုင်းကျရောက်ခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ မြေငလျင်တုန်လှုပ်ခြင်းနှင့် အလားတူထိန်းချုပ်၍မရနိုင်သော ဖြစ်ရပ်များ သို့မဟုတ် မည်သည့်ကြိုးစားအားထုတ်မှုဖြင့် တားဆီးမရနိုင်သော ဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ထမ်းဆောင်ရန် ပျက်ကွက်ပါက အဆိုပါမလွှဲမရှောင်သာနိုင်သည့် ဖြစ်ရပ်များပေါ်ပေါက်ကြောင်းကို ဖြစ်ပေါ်သည့်အချိန်မှ (၁၄)ရက်အတွင်း အခြားအဖွဲ့အစည်းသို့ အမြန်အကြောင်းကြားရမည်။ အခြားတစ်ဖက်ကလည်း မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ် ပေါ်ပေါက်ကြောင်း လက်ခံပါက စာချုပ်

(ခ) အဖွဲ့အစည်းတစ်ဖွဲ့ဖွဲ့က ပဋိညာဉ်ပါ အဓိကစည်းကမ်းချက် တစ်ရပ်ရပ်ကို ဖေါက်ဖျက်ကျူးလွန်လာခြင်း။

(ဂ) ဖက်စပ်ကုမ္ပဏီ၏ မူလရည်ရွယ်ချက်နှင့် ရည်မှန်းချက်များကို အကောင်အထည်ဖေါ်ရန်မဆောင်ရွက်နိုင်တော့ခြင်း၊ သို့မဟုတ်

(ဃ) နှစ်ဖက်အဖွဲ့အစည်းအချင်းချင်း ရပ်စဲရန် စာဖြင့်ရေးသား သဘောတူခြင်း၊

(င) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သောဖြစ်ရပ်များ အနည်းဆုံး ၆ လ ဆက်တိုက်ဖြစ်ပေါ်လာခြင်း ။

(၁၈.၂) ပဋိညာဉ်စာချုပ်ကိုရပ်စဲခြင်းပြုရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အတည်ပြုချက်ကို ရယူရမည်ဖြစ်သည်။

## အခန်း(၁၉)
## လွှမ်းမိုးသော ဥပဒေ

(၁၉.၁) ဤစာချုပ်ကို လွှမ်းမိုးသော ဥပဒေသည် မြန်မာနိုင်ငံ၏ ဥပဒေများဖြစ်သည်။ ဤစာချုပ်ပါ နှစ်ဦးနှစ်ဖက်လုံးတို့သည် စီရင်ပိုင်ခွင့်ရှိသော သက်ဆိုင်ရာမြန်မာတရားရုံးနှင့် အယူခံမှုများကို ကြားနာနိုင်သော တရားရုံးအားလုံး၏ စီရင်ပိုင်ခွင့်ကို လက်ခံသည်။

## အခန်း(၂၀)
## စာချုပ် အတည်ဖြစ်ခြင်း

(၂၀.၁) ဤသဘောတူစာချုပ်သည် စာချုပ်ကို အကောင်အထည်ဖေါ်ရန် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ သက်ဆိုင်ရာအာဏာပိုင်ထံမှ ချအပ်သော ခွင့်ပြုချက်များရရှိမှသာ အကျိုးသက်ရောက် မှုရှိသည်။

## အခန်း(၂၁)
## ပဋိညာဉ်စာချုပ်ကို ပြောင်းလဲပြုပြင်ခြင်း

(၂၁.၁) နှစ်ဖက်သော အဖွဲ့အစည်းများသည် မမျှော်လင့်သော အခြေအနေတစ်ရပ်ရပ်ကြောင့် ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန်လိုအပ်ခဲ့လျှင် ပဋိညာဉ်စာချုပ်တွင် လိုအပ်သောပြင်ဆင်ချက်များကိုသဘောတူပြုလုပ်နိုင်သည်။ ထိုသို့ပြင်ဆင်ရာတွင် နှစ်ဦးနှစ်ဖက်တို့သည် တရားဝင်စာဖြင့်သဘောတူညီချက်အရ ပြုလုပ်နိုင်သည်။ စာချုပ်ပြင်ဆင်ခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏အတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်စေရမည်။

## အခန်း(၂၅)
## အာမခံ နှင့် ကိုယ်စားပြုခြင်း

(၂၅.၁) ဤစာချုပ်တွင် လက်မှတ်ရေးထိုးသူ နှစ်ဦးနှစ်ဖက်လုံးသည် သဘောတူစာချုပ်ချုပ်ဆိုရန် ဥပဒေအရ လုပ်ပိုင်ခွင့်အာဏာနှင့်ငွေကြေးအင်အား ပြည့်စုံသူများဖြစ်ကြောင်း အာမခံပါသည်။

အထက်ဖော်ပြပါစည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် ၊ အောက်ပါအသိသက်သေ လူကြီးမင်းများ ရှေ့မှောက်တွင် ပဋိညာဉ်စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့ကိုယ်တိုင် လက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည်။

-----------------
ဦးပါစီမောင်မောင်
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့သဘောကျင်းလုပ်ငန်း
လိပ်စာ-ဆင်မလိုက်၊ ကမာရွတ်
ရန်ကုန်မြို့။

-----------------
ဦးဘိုကျော်
ဦးဆောင်ညွှန်ကြားရေးမှူး
စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်
လိပ်စာ-အမှတ်၁၂(က)
အင်းယားမြိုင်လမ်း၊ ရန်ကုန်မြို့

ရှေ့မှောက်တွင်

ရှေ့မှောက်တွင်

ဦးစိုးသိမ်း
အထွေထွေမန်နေဂျာ(ထုတ်လုပ်ရေး)
မြန်မာ့သဘောကျင်းလုပ်ငန်း

ဦးသိန်းထွန်း
ဥက္ကဋ္ဌ
စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်

နောက်ဆက်တွဲ-က




## မြေဧရိယာ

၁။ ၂၈၀' x ၁၄၀' = ၃၉၈၀၀.၀၀ စတုရန်းပေ

၂။ ၃၇၅' x ၁၆၀' = ၆၀၀၀၀.၀၀ စတုရန်းပေ

---------------

၉၇၈၀၀.၀၀ စတုရန်းပေ

၉၇၈၀၀.၀၀ စတုရန်းပေ =(၄၈၄၀x၉) စတုရန်းပေ/ဧက

=၂.၂၅ ဧက




MYANMA SHIPYARDS

GENERAL LAYOUT PLAN

SCALE = 1: 3000

## မြန်မာ့သစ်တောလုပ်ငန်း၏ တိုးချဲ့အဆောက်အဦး စက်ပစ္စည်းများနှင့် စက်ကရိယာ တန်ဖိုးဖြတ်ခြင်း

| | | ကျပ် |
|---|---|---|
| ၁။ | သစ်အခြေခံအရောင်းဆိုင် အဆောက်အဦး<br>(၂၀၀' X ၁၂၀' ) အာရ်စီအဆောက်အဦး | ၅၉၄၉၇၀၀ |
| ၂။ | မီးခံအုပ်ဖြင့် ဆောက်လုပ်ထားသည့် အခြောက်ခံအဆောက် အဦး ( ၇၅' X ၆၀') သစ်ညှပ်ဘိလပ်မြေအဆောက် အဦး<br>မီးခံအုပ် ကွန်တိန်နာ (၁၀)ခု အပါအဝင်နှင့် သစ်ခွဲစက်အဆောက်အဦး(၁၀၀' X ၄၀' ) | ၄၅၈၉၃၀၀ |
| ၃။ | ၁၂" အထူရှိ လိပ်သဲကျောက် အခြေခံ၍ အထူ ၉"အကျယ် ၁၈'ရှိသော ဘိလပ်မြေလမ်း | ၇၄၆၀၀၀ |
| ၄။ | ပုံးတွဲပါတာရင်းအရ သစ် အခြေခံစက်ကရိယာ စုစုပေါင်း ၁၄-ခု | ၂၀၀၀၀၀ |
| ၅။ | အထက်ဖော်ပြပါ အဆောက် အဦးများနှင့် လမ်းကို လျှပ်စစ်မီးသွယ်တန်း ထားရှိမှု | ၁၄၃၀၀၀ |
| | ကျပ် ၁၁.၆၂၈ သန်း | ၁၁၆၂၈၀၀၀ |

နောက်ဆက်တွဲ (ဂ)

စတင်းဒက်ပြန်မှာ ကုမ္ပဏီလီမိတက်၏ သစ်အခြေခံ စက်ကရိယာများတန်ဖိုး

| စက်များ အကြောင်းအရာ | ဦးရေ | ကျပ် |
|---|---|---|
| 1. 4 Side planer (6 spindle ) model No 206 (Band new ) | 1 | 3000,000 |
| 2. Double Head spindle moulder model No. cmp - 522 (Band new ) | 1 | 400,000 |
| 3 Multiple Rip saw 12" wide model No .Sye - 101 (Reconditioned ). | 1 | 900,000 |
| 4. Straight line single Rip saw model No CW -460 (Band news 10H.P) | 1 | 1000,000 |
| 5. Single end tenoner (Reconditioned) model No TET 4 | 1 | 100,000 |
| 6. Double End Miter Saw with mounting Head. model No TDS 6 sat (Band new ) | 1 | 1500 ,000 |
| 7. Montiser model No.cm 1276 (Band New) | 1 | 126,900 |
| 8. Wide Belt Sander (Reconditioned ) Model No T1136 H | | 549,900 |
| | | 7576, 800 |

Kyat 75.77 lakh.

## မြန်မာ့သင်္ဘောကျင်း လုပ်ငန်း၏ တိုးချဲ့စက်ကရိယာနှင့် ကရိယာတန်ဆာပလာများစာရင်း

| | |
|---|---|
| 1. Chisel Mortiser (Wadkin) | 1 No |
| 2. Planing and Thicknessing (Wadkin ) | 1 No |
| 3. Automatic Circular Saw Sharpener ( Lorch ) | 1 No |
| 4. Surface Planing and Jointing Machine 9"(Barsgreen) | 1 No |
| 5. Surface Planing and Jointing Machine 16"(Barsgreen) | 1 No |
| 6. Circular Saw Bench with rise and fall saw (Wadkin ) | 1 No |
| 7. Circular Sawing Machine with 450 tilting table bade dia 42" max (Mitsui Kogyo ) | 1 No |
| 8. High Speed band saw (Wilson Bros ) | 1 No |
| 9. Wood turning Lathe | 1 No |
| 10. Disc Sander (Wadkin ) | 1 No |
| 11. Combined Chain and hollow Chisel (Wadkin) | 1 No |
| 12. Saw Grinding machine Sharpener | 1 No |
| 13. Band saw small 1/4 " to 1" | 1 No |
| 14. Toung and groove machine | 1 No |
| Total | 14 No |

မှတ်ချက်။ ။အထက်ဖော်ပြပါ စက်ကရိယာတန်ဆာပလာများသည် နှစ်(၃၀)အတွင်း လုပ်ငန်းဆောင်ရာတွင် အဓိကနှင့် သာမည ပြင်ဆင်ရန်အတွက် စက်အရန်ပစ္စည်းများနှင့် ပြုပြင်ရန် ကရိယာတန်ဆာပလာများ လိုအပ်ပါသည်။

## ဖက်စပ်လုပ်ငန်း၏ သစ်အခြေခံစက်မှုလုပ်ငန်းဖွဲ့ပုံဇယား



## နှစ်လည်ဝန်ထမ်းခန့်ထားမှု နှင့် လစာစရိတ်များ

ကျပ်

| အမှတ်စဉ် | ရာထူးအမည် | လစာနှုန်း | ပထမနှစ် | | ဒုတိယနှစ် | | တတိယနှစ် | |
|---|---|---|---|---|---|---|---|---|
| | | | ဝန်ထမ်းဦးရေ | လစာသင့်ငွေ | ဝန်ထမ်းဦးရေ | လစာသင့်ငွေ | ဝန်ထမ်းဦးရေ | လစာသင့်ငွေ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၁ | အထွေထွေမန်နေဂျာ | ၃၀၀၀၀ | ၁ | ၃၀၀၀၀ | ၁ | ၃၀၀၀၀ | ၁ | ၃၀၀၀၀ |
| ၂ | မန်နေဂျာ | ၂၀၀၀၀ | ၄ | ၈၀၀၀၀ | ၄ | ၈၀၀၀၀ | ၄ | ၈၀၀၀၀ |
| ၃ | လက်ထောက်မန်နေဂျာ | ၁၅၀၀၀ | ၁ | ၁၅၀၀၀ | ၂ | ၃၀၀၀၀ | ၂ | ၃၀၀၀၀ |
| ၄ | ဖိုမင်/ကြီးကြပ်ရေးမှူး | ၁၂၀၀၀ | ၄ | ၄၈၀၀၀ | ၅ | ၆၀၀၀၀ | ၅ | ၆၀၀၀၀ |
| ၅ | စက်မောင်း/ဒုကြီးကြပ်ရေးမှူး | ၇၅၀၀ | ၆ | ၄၅၀၀၀ | ၈ | ၆၀၀၀၀ | ၁၄ | ၁၀၅၀၀၀ |
| ၆ | ကျွမ်းကျင် | ၆၀၀၀ | ၂၀ | ၁၂၀၀၀၀ | ၂၅ | ၁၅၀၀၀၀ | ၃၀ | ၁၈၀၀၀၀ |
| ၇ | အလုပ်သမား | ၃၀၀၀ | ၃၀ | ၉၀၀၀၀ | ၄၀ | ၁၂၀၀၀၀ | ၅၀ | ၁၅၀၀၀၀ |
| | | စုစုပေါင်း | ၆၆ | ၄၂၈၀၀၀ | ၈၅ | ၅၃၀၀၀၀ | ၁၀၆ | ၆၃၅၀၀၀ |
| | တစ်နှစ်လစာစရိတ် | | | ၅၁၃၆၀၀၀ | | ၆၃၆၀၀၀၀ | | ၇၆၂၀၀၀၀ |

၅။ ငှားရမ်းကာလသည် ငှားရမ်းခြင်းသဘောတူကတိစာချုပ် (မူကြမ်း) တွင် လျှောက်ထားတင်ပြသည့်အတိုင်း ကနဦး (၁၅) နှစ်နှင့် နောက်ထပ် (၅) နှစ်သက်တမ်းတိုးမြှင့်ခွင့်ရှိသည်။ ထိုသို့သက်တမ်းတိုးမြှင့်လိုလျှင် ကနဦး (၁၅) နှစ်မတိုင်မီ (၃) နှစ်ကြိုတင်၍ စာဖြင့်အကြောင်းကြားရမည်။ အသစ်ငှားရမ်းခြင်းကာလအတွက် ပဋိညာဉ်အသစ်ကိုပြန်လည်ချုပ်ဆို၍ ငှားရမ်းခအသစ်နှုန်း ဖြင့်ပြင်ဆင်သည့်နှုန်း ရမည်။ ငှားရမ်းခများကို တွင်းပြင်ဧရိယာစတုရန်းမီတာ ၆၀၇၉.၆ အတွက် တစ်နှစ်လျှင်တစ်စတုရန်းမီတာလျှင်ကျပ် ၈၀ နှုန်းဖြင့်လည်းကောင်း၊ အဆောက်အဦတည်ရှိသောဧရိယာစတုရန်းမီတာ ၃၀၂၅.၈ အတွက် တစ်နှစ်လျှင်တစ်စတုရန်းမီတာလျှင်ကျပ် ၁၅၀ နှုန်းဖြင့် စုစုပေါင်းဧရိယာ ၂.၂၅ ဧကအတွက်ကျပ် ၉၄၆၃၀၀ (ကျပ်ကိုးသိန်း လေးသောင်းခြောက်ထောင်သုံးရာတိတိ) ကိုပေးချေရမည်။ ငှားရမ်းခများကို (၅) နှစ်တစ်ကြိမ်ပြန်လည်သုံးသပ်ရမည်။ ထိုသို့သုံးသပ်ရာတွင်လက်ရှိနှုန်းထား၏ (၁၅) ရာခိုင်နှုန်း ထက်မပိုသောနှုန်းဖြင့်ပြန်လည်ညှိနှိုင်း သုံးသပ်ရမည်။

၆။ ထိုသို့မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ အငှားချထားသူနှင့်အငှားချထားခြင်းခံရသူ နှစ်ဦးနှစ်ဖက်စလုံးတို့သည် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၇။ စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက် (Standand Myanmar Co.,Ltd.) သည် မိမိထည့်ဝင်ရမည့်အစုငွေ၏ ၁၀ ရာခိုင်နှုန်းဖြစ်သောကျပ် ၁၀၂၀၀၀၀ (ကျပ်တစ်သန်းနှစ်သောင်းတိတိ) ကိုဘဏ်အာမခံကြေးအဖြစ်မြန်မာ့သင်္ဘောကျင်းလုပ်ငန်းက သတ်မှတ်ပေးသည့်ဘဏ်တစ်ခုခုတွင် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှတစ်လအတွင်း ထားရှိရမည်။

၈။ အမ်အက်စ်ဝု(ဒ်)ဝါ(ခ်) ကုမ္ပဏီလီမိတက် (MS Woodwork Co., Ltd.) ကိုမြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီ မှတ်ပုံတင်နိုင်ရန်အတွက် ကုမ္ပဏီများညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါစာရွက်စာတမ်း (၅) စောင်စီကို ကော်မရှင်ရုံးသို့ ပေးပို့တင်ပြရမည်။

(က) ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှုဌာနက အတည်ပြုပြီး ဖြစ်သည့် မြန်မာ- အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ၏ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ ( Memorandum and Articles of Association )

၉။ အမ်အက်စ် ဝုဒ်ဝေါ့(ခ်) ကုမ္ပဏီလီမိတက် ( MS Woodwork Co., Ltd. ) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှုစသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု၊ ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို စနစ်တကျထား၍ ဆောင်ရွက်ရမည်။

၁၀။ အဆိုပြုလုပ်ငန်းစတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး အစီရင်ခံရမည်။

၁၁။ ဤခွင့်ပြုမိန့်ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အမိန့်အရ-

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး
[ ဝန်ကြီး ၊ ဒုတိယဝန်ကြီးချုပ်ရုံး ]

စာအမှတ်၊ ရက-၁/မ-၀၃၂/၉၆ ( ၀၉၃၄ )။
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ စက်တင်ဘာ လ ၃၀ ရက်။

ဖြန့်ဝေခြင်း -

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ဥက္ကဋ္ဌရုံး ။
၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး ။
၃။ အစိုးရအဖွဲ့ရုံး ။

၄။ ဒုတိယဝန်ကြီးချုပ်ရုံး ။

၅။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

၆။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန ။

၇။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန။

၈။ သစ်တောရေးရာဝန်ကြီးဌာန။

၉။ ပို့ဆောင်ရေးဝန်ကြီးဌာန။

၁၀။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန။

၁၁။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ဝင်။
(ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုဂဏ်ပဂ္ဂည်းစာရင်းအင်းနှင့်စစ်ဆေးရေး
ဦးစီးဌာန)။

၁၂။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်။

၁၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန။

၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။

၁၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း ။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။

၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း ။

၁၈။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များ
အသင်း ။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သတ္တုတွင်းလုပ်ငန်း ။

၂၁။ ဥက္ကဋ္ဌ၊ စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်။
(Standard Myanmar Co., Ltd. )

အမိန့်အရ -

(မောင်မောင်ရီ)
တွဲဖက်အတွင်းရေးမှူး



မ၁* ၂၃/၉/၉၆။

အထွေထွေအရပ်ရပ် – ၁၆

(ပုံး ထွင်း စာအကျဉ်းချုပ် သို့တည်းမဟုတ် စာကြမ်းရေးရန်အတွက်)

အကြောင်းအရာ။ ။ MS Woodwork Co.,Ltd.သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ သစ်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် ခွင့်ပြုမိန့်ထုတ်ပေးခြင်း ။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာ့သတ်ာကျင်းလုပ်ငန်း ပိုင်သစ်သားထည်ပစ္စည်း စက်ရုံတွင် မြန်မာ့သတ်ာကျင်းလုပ်ငန်း နှင့် Standard Myanmar Co.,Ltd. တို့ဖက်စပ်၍ MS Woodwork Co., Ltd.တည်ထောင်ကာ သစ်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုချက်အား (၂၃–၈–၉၆) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃/၉၆) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။

၂။ ကော်မရှင်၏ဆုံးဖြတ်ချက်နှင့်အညီ ယင်းအဆိုပြုလုပ်ငန်းအား (၂၅–၉–၉၆) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၃၂/၉၆) ကြိမ်မြောက်အစည်းအဝေးသို့ ဒုတိယဝန်ကြီးချုပ်ရုံးမှတင်ပြခဲ့ရာ ယင်းအစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။

၂/–

အထွေထွေအရပ်ရပ်–၁၆

(ရုံးတွင်းစာအကျဉ်းချုပ် သို့တည်းမဟုတ် စာကြမ်းရေးရန်အတွက်)

– ၂ –

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၅)၊ ပုဒ်မ–၁၀ နှင့်ယင်းဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း (၄)၊ အပိုဒ်–၁၂ တို့နှင့်အညီ MS Woodwork Co., Ltd. သို့ထုတ်ပေးမည့်ခွင့်ပြုမိန့်တွင်လက်မှတ်ရေးထိုးပေးနိုင်ပါရန်နှင့်ယင်းခွင့်ပြုမိန့်ထုတ်ပေးမည့်အမှာစာ (မူကြမ်း) ကိုသဘောတူအတည်ပြုပေးနိုင်ပါရန်ပြုစုတင်ပြလျက် အမိန့်နာခံအပ်ပါသည်။

၂၇–၉–၉၆။

~~အတွင်းရေးမှူး (ဝန်ကြီး)~~ ၂၈/၉

Permit တွင်လက်မှတ်ရေးထိုးနိုင်ပါရန် [illegible]ပါသည်

ဥက္ကဋ္ဌ (ဒုတိယဝန်ကြီးချုပ်) ၂၈/၉

၃၀/၉

၃၂/၉၆
၂၂.၉.၉၆

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ဒုတိယဝန်ကြီး ချုပ်ရုံး
ရန်ကုန်မြို့။

စာအမှတ်၊ (ဒု) ၀၁၇/ရင်းနှီး/၁( ၁၉၂ )၊
ရက်စွဲ ၊ ၁၉၉၆ ခုနှစ်၊ ဩဂုတ်လ ၂၉ ရက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ MS Woodwork Co., Ltd. တည်ထောင်၍ သစ်ကုန်ချော ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့သင်္ဘောကျင်းလုပ်ငန်းနှင့် မြန်မာကုမ္ပဏီဖြစ်သည့် Standard Myanmar Co., Ltd. တို့ဖက်စပ်ပြုလျက် အမ်အက်စ်ဝု(ဒ်)ဝါ(ခ်)ကုမ္ပဏီလီမိတက် ( MS Woodwork Co., Ltd ) တည်ထောင်၍ သစ်ကုန်ချောပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၃-၈-၉၆) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃/၉၆) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူပြီး၊ အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ အစိုးရအဖွဲ့သို့ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ဖက်စပ်လုပ်ငန်းသဘောတူစာချုပ် ( မူကြမ်း )၊ မြေငှားရမ်းမှုသဘောတူစာချုပ် ( မူကြမ်း ) နှင့် ရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်များကို နောက်ဆက်တွဲ ( ၁ ) အဖြစ် ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏ မတည်ငွေရင်းပမာဏနှင့် မတည်ငွေရင်းအချိုးအစားတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | မတည်ငွေရင်း ပမာဏ (ကျပ်သန်း) | မတည်ငွေရင်း အချိုးအစား |
|---|---|---|
| - မြန်မာ့သင်္ဘောကျင်းလုပ်ငန်း | ၁၂.၄၇ | ၅၅ % |
| - Standard Myanmar Co. Ltd | ၁၀.၂၀ | ၄၅ % |
| စုစုပေါင်း | ၂၂.၆၇ | |

ယင်းတွင် မြန်မာ့သင်္ဘောကျင်းလုပ်ငန်းမှ ငွေသားကျပ် ၀.၈၄ သန်း၊ အဆောက်အအုံနှင့် စက်ကိရိယာပစ္စည်းများတန်ဖိုးကျပ် ၁၁.၆၃ သန်းနှင့် Standard Myanmar Co., Ltd. မှ ငွေသားကျပ် ၂.၆၂ သန်း၊ စက်ကိရိယာပစ္စည်းတန်ဖိုးကျပ် ၇.၅၈ သန်းထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် မြန်မာ့သင်္ဘောကျင်းလုပ်ငန်းပိုင် ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ဆင်မလိုက်ရပ်ကွက်ရှိ မြေ ( ၂.၂၅ ) ဧက(၉၁၀၅.၄၃၅ စတုရန်းမီတာ)ကို ကနဦး ၁၅ နှစ်ငှားရမ်း၍ ကုန်ချောပစ္စည်းထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး သစ်ကုန်ချောပစ္စည်းထုတ်လုပ် ဆောင်ရွက်မည်ဖြစ်ပါသည်။ မြေငှားရမ်းခနှုန်းမှာ Covered area ( ၃၀၂၅.၈ စတုရန်းမီတာ ) အတွက် တစ်နှစ်လျှင်တစ်စတုရန်းမီတာကို ကျပ် ၁၅၀ နှုန်းဖြင့် ကျပ် ၀.၄၅၄ သန်း၊ Uncovered area ( ၆၀၇၉.၆ စတုရန်းမီတာ ) အတွက်တစ်နှစ်လျှင်တစ်စတုရန်းမီတာကို ၈၀ ကျပ်နှုန်းဖြင့် ကျပ် ၀.၄၉၂ သန်း၊ စုစုပေါင်းနှစ်စဉ်မြေငှားရမ်းခကျပ် ၀.၉၄၆ သန်းရရှိမည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းမှ ကြမ်းခင်းတုံးများ၊ တံခါးများ၊ ကြေးဘောင်များကို ထုတ်လုပ်မည်ဖြစ်ပြီး ထုတ်လုပ်မှု၏ ၂၀ ရာခိုင်နှုန်းခန့်ကို နိုင်ငံခြားသို့တင်ပို့ရောင်းချရန်၊ ကျန် ၈၀ ရာခိုင်နှုန်းခန့်ကို ပြည်တွင်းတွင် ရောင်းချရန် တင်ပြထားပါသည်။ ပုံမှန်နှစ်တွင် ပြည်တွင်းသို့ ကြမ်းခင်း တုံးကုဗတန် ၁၆၉၄၊ တံခါးကုဗတန် ၇၂၅၈၊ ကြေးဘောင်ကုဗတန် ၇၂၅၈ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချမည်ဖြစ်ပြီး ပြည်ပသို့ကြမ်းခင်းတုံးကုဗတန် ၃၂၂၊ တံခါးကုဗတန် ၁၃၈၂ နှင့် ကြေးဘောင်ကုဗ

တန် ၁၃၈၂တင်ဗို့ ရောင်းချမည်ဖြစ်ပါသည်။ ပြည်တွင်း ရောင်း ဈေးနှုန်းများမှာ ကြမ်းခင်းတုံး ၁ကုဗတန်လျှင်ကျပ် ၁၀၅၀၀၀၊ တံခါးတစ်ချပ်လျှင်ကျပ် ၁၀၅၀၀နှင့် ကြေး ဘောင်တစ်ခုလျှင်ကျပ် ၃၀၀၀ဖြစ်ပါသည်။ ပြည်ပ ရောင်း ဈေးနှုန်းများမှာ ကြမ်းခင်းတုံး ၁ကုဗတန်လျှင် အမေရိကန် ဒေါ်လာ ၁၀၀၀၀၊ တံခါးတစ်ချပ်လျှင် အမေရိကန် ဒေါ်လာ ၁၂၅နှင့် ကြေး ဘောင်တစ်ခုလျှင် အမေရိကန် ဒေါ်လာ ၃၀ဖြစ်ပါသည်။

၅။ ဤလုပ်ငန်းမှ ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေနှင့်အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | | ကျပ်သန်း |
|---|---|---|
| (က) | ဝင်ငွေ | ၂၆၆.၇၀ |
| (ခ) | အသုံးစရိတ် | ၂၅၇.၈၀ |
| (ဂ) | အသားတင်အမြတ် | ၈.၉၀ |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | | ကျပ်သန်း |
|---|---|---|
| (က) | ဝင်ငွေခွန် | ၃.၂၉ |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ၅၂.၅၈ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း(၁၀၆) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၈။ ဤလုပ်ငန်း ဆောင်ရွက်ရန်အတွက် သစ်တော ရေးရာဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ နိုင်ငံခြားကုမ္ပဏီများနှင့်လက်မှတ် ရေးထိုးရာတွင် စာချုပ်သက်တမ်းအား နှစ်(၃၀)အစား(၁၅)နှစ်သာကျင့်သုံးလျက် ရှိကြောင်းနှင့် ဇက်ပုံအတွက်လိုအပ်မည့်သစ်ကုန်ကြမ်းအား ၄င်းတို့အစီအစဉ်ဖြင့်သာ ဆောင်ရွက်ရန်လိုအပ် ကြောင်းအကြောင်းပြန်ကြားလာပါသည်။

၉။ Standard Myanmar Co., Ltd. သည်ဘဏ်အာမခံ ကြေး ကျပ် ၁.၀၂ သန်းကို စာချုပ်လက်မှတ် ရေးထိုးသည့် နေ့မှတစ်လအတွင်း မြန်မာ့ သစ်တောကျင်းလုပ်ငန်းသို့ ပေးသွင်းမည်ဖြစ်ပါသည်။

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင် သောလုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိ ကြောင်း ကတိဝန်ခံချက် ပေးထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တွင် ဖော်ပြထားသည့်အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုလျှောက် ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင် သောနှစ်အပါ အဝင်ဆက်တိုက် ( ၃ ) နှစ်အတွက်ဝင် ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ တွင် ဖော်ပြထားသည့်အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့် များအနက်လုပ်ငန်းနှင့်သင့် လျော်သည့်အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ကို ခံစားခွင့်ပြုရန် ကော်မရှင်မှဆုံးဖြတ်ခဲ့ပါသည်။

၁၂။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) MS Woodwork Co., Ltd. တည် ဆောက်ရေးသစ်ကုန်ချော ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

(ခ) လုပ်ငန်း ဆောင်ရွက်ရန်သဘောတူပါက မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန် ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များအနက်လုပ်ငန်း နှင့်စပ်လျဉ်းသည့်အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစားခွင့်ပြုရန်သဘောတူ - မတူ။

၁၃။ <u>ဒုတိယဝန်ကြီးချုပ်ရုံး၏ ထောက်ခံချက်။</u>

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

[ ဗိုလ်မှူးချုပ် မောင်မောင် ]

ဝန်ကြီး

ဒုတိယဝန်ကြီးချုပ်ရုံး

နှင့်

အတွင်းရေးမှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။</u>



* ဇိန်၂၃-၀-၉၆။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ၇က – ၆ (ခ)/ ၇၄၈/ ၉၆ (၀၆၉၇)။
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဩဂုတ်လ ၂၁ ရက်။

အမှာစာ

အကြောင်းအရာ။ ။ MS Woodwork Co.Ltd တည်ထောင်၍ သစ်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့သင်္ဘောကျင်းလုပ်ငန်းနှင့် မြန်မာကုမ္ပဏီဖြစ်သည့် Standard Myanmar Company Ltd. တို့ဖက်စပ်ပြုလုပ်မည့်အမ်အက်စ်ဝုဒ်ဝေါ့(ခ်)ကုမ္ပဏီ လီမိတက် (MS Woodwork Co.,Ltd) တည်ထောင်၍သစ်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၈-၇-၉၅) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀/၉၅) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်။

(က) စက်ရုံတည်နေရာနှင့်ဧရိယာသတ်မှတ်ချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ဥက္ကဋ္ဌလာရောက်လေ့လာကြည့်ရှုပြီးနောက်ပိုင်းတွင် သေချာစွာသတ်မှတ်ရန်၊

(ခ) မတည်ငွေရင်းအချိုးအစားကို မြန်မာ့သင်္ဘောကျင်းလုပ်ငန်းမှ ၅၅%၊ Standard Myanmar Co.,Ltd မှ ၄၅% ထည့်ဝင်ရန်၊

(ဂ) မြေငှားရမ်းခနှုန်းကို Covered area အတွက်တစ်စတုရန်းမီတာလျှင် ၁၅၀ ကျပ်နှုန်းနှင့် Uncovered area အတွက် ၈၀ ကျပ်နှုန်းသတ်မှတ်ရန်၊

(ဃ) မြေငှားရမ်းသက်တမ်းကို ကနဦး ၁၅နှစ်နှင့် နောက်ထပ် ၅ နှစ်တိုးမြှင့်ခွင့်ပြုရန်၊

(င) ဘဏ်အာမခံကြေး အဖြစ် Standard Myanmar Co. Ltd မှထည့်ဝင်မည့်မတည်ငွေရင်း၏ ၁၀%သတ်မှတ်ရန်၊

အထက်ပါသုံးဖြတ်ချက်များအရ ယင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ ခေတ္တဆိုင်းငံ့ထားခဲ့ပါသည်။

၂။ ယခုအခါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ဥက္ကဋ္ဌနှင့် အဖွဲ့သည် မြန်မာ့သင်္ဘောကျင်းလုပ်ငန်း ၊ သစ်သားထည်စက်ရုံသို့သွားရောက်စစ်ဆေးကြည့်ရှုပြီး ဖြစ်ကြောင်းနှင့်အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်များအရညှိနှိုင်း ပြင်ဆင်မှုများ ပြီးစီးပြီဖြစ်ကြောင်း တင်ပြလာပါသည်။ သို့ပါ၍ ကော်မရှင်ဆုံးဖြတ်ချက်များ နှင့်အညီ ပြင်ဆင်ထားသည့်အဆိုပြုချက်အသစ်ကို ပြန်လည်တင်ပြလာသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ဖက်စပ်လုပ်ငန်းသဘောတူစာချုပ် (မူကြမ်း)၊ မြေငှားရမ်းမှုသဘောတူစာချုပ် (မူကြမ်း)၊ ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် နှင့် ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများကို နောက်ဆက်တွဲ (၁) တွင်တင်ပြထားပါသည်။

၃။ ဤလုပ်ငန်း၏မတည်ငွေရင်းပမာဏနှင့်မတည်ငွေရင်းအချိုးအစားတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | မတည်ငွေရင်း ပမာဏ (ကျပ်သန်း) | မတည်ငွေရင်း အချိုးအစား |
|---|---|---|
| - မြန်မာ့သင်္ဘောကျင်းလုပ်ငန်း | ၁၂.၄၇ | ၅၅% |
| - Standard Myanmar Co., Ltd. | ၁၀.၂၀ | ၄၅% |
| စုစုပေါင်း | ၂၂.၆၇ | |

ယင်းတွင်မြန်မာ့သင်္ဘောကျင်းလုပ်ငန်းမှ ငွေသားကျပ် ၀.၈၄ သန်း၊ အဆောက်အအုံနှင့်စက်ကိရိယာပစ္စည်းများ တန်ဖိုးကျပ် ၁၁.၆၃သန်း နှင့် Standard Myanmar Co., Ltd. မှ ငွေသားကျပ် ၂.၆၂သန်း၊ စက်ကိရိယာပစ္စည်း တန်ဖိုးကျပ် ၇.၅၈သန်း ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် မြန်မာ့သတော်ကျင်း လုပ်ငန်းပိုင် ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ဆင်မလိုက်ရပ်ကွက်ရှိ မြေ (၂.၂၅) ဧက (၉၁၀၅.၄၃၅ စတုရန်းမီတာ)ကို ကနဦး ၁၅နှစ်ငှား ရမ်း၍ကုန်ချောပစ္စည်း ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး သစ်ကုန်ချောပစ္စည်း ထုတ်လုပ်ဆောင်ရွက်မည်ဖြစ်ပါသည်။ မြေငှားရမ်းခနှုန်းမှာ Covered area (၃၀၂၅.၈ စတုရန်းမီတာ)အတွက် တစ်နှစ်လျှင်တစ်စတုရန်းမီတာကို ကျပ် ၁၅၀နှုန်းဖြင့် ကျပ် ၀.၄၅၄သန်း၊ Uncovered area (၆၀၇၉.၆ စတုရန်းမီတာ)အတွက် တစ်နှစ်လျှင်တစ်စတုရန်းမီတာကို ၈၁ ကျပ်နှုန်းဖြင့်ကျပ် ၀.၄၉၂သန်း၊ စုစုပေါင်း နှစ်စဉ် မြေငှားရမ်းခကျပ် ၀.၉၄၆သန်း ရရှိမည်ဖြစ်ပါသည်။

၅။ ဤလုပ်ငန်းမှကြမ်းခင်းတုံးများ၊ တံခါးများ၊ ကြေးဘောင်များကိုထုတ်လုပ်မည်ဖြစ်ပြီး ထုတ်လုပ်မှု၏ ၂၀%ခန့်ကို နိုင်ငံခြားသို့တင်ပို့ရောင်းချရန်ကျန် ၈၀%ခန့်ကို ပြည်တွင်းတွင်ရောင်းချရန်တင်ပြထားပါသည်။ ပုံမှန်နှစ်တွင် ပြည်တွင်း၌ကြမ်းခင်းတုံး ကုဗတန် ၁၆၉၄၊ တံခါးကုဗတန် ၇၂၅၈၊ ကြေးဘောင်ကုဗတန် ၇၂၅၈ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချမည်ဖြစ်ပြီး ပြည်ပသို့ ကြမ်းခင်းတုံး ကုဗတန် ၃၂၂၊ တံခါးကုဗတန် ၁၃၈၂ နှင့် ကြေးဘောင်ကုဗတန် ၁၃၈၂ တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ ပြည်တွင်းရောင်းဈေးနှုန်းများမှာ ကြမ်းခင်းတုံး ၁ ကုဗတန်လျှင် ကျပ် ၁၀၅၀၀၀၊ တံခါးတစ်ချပ်လျှင် ကျပ် ၁၀၅၀၀နှင့် ကြေးဘောင် တစ်ခုလျှင် ကျပ် ၃၀၀၀ ဖြစ်ပါသည်။ ပြည်ပရောင်းဈေးနှုန်းများမှာ ကြမ်းခင်းတုံး ၁ ကုဗတန်လျှင် အမေရိကန်ဒေါ်လာ ၁၀၀၀၊ တံခါးတစ်ချပ်လျှင် အမေရိကန်ဒေါ်လာ ၁၂၅ နှင့် ကြေးဘောင်တစ်ခုလျှင် အမေရိကန်ဒေါ်လာ ၃၀ ဖြစ်ပါသည်။

၆။ ဤလုပ်ငန်းမှပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေနှင့်အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | ကျပ်သန်း |
|---|---|
| (က) ဝင်ငွေ | ၂၆၆.၇၀ |
| (ခ) အသုံးစရိတ် | ၂၅၇.၅၃ |
| (ဂ) အသားတင်အမြတ် | ၉.၁၇ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုး အမြတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

ကျပ်သန်း

(က) ဝင်ငွေခွန် ၃.၂၄

(ခ) ကုန်သွယ်လုပ်ငန်းခွန် ၅၂.၆၅

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၁၀၆) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်း ဆောင်ရွက်ရန်အတွက် သစ်တောရေးရာဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ နိုင်ငံခြားကုမ္ပဏီများနှင့်လက်မှတ်ရေးထိုးရာတွင် စာချုပ်သက်တမ်းအား နှစ်(၃၀)အစား (၁၅)နှစ်သာကျင့်သုံး လျက်ရှိကြောင်းနှင့် စက်ရုံအတွက် လိုအပ်မည့်သစ်ကုန်ကြမ်းအား ၎င်းတို့ အစီအစဉ်ဖြင့်သာ ဆောင်ရွက်ရန်လိုအပ်ကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၀။ Standard Myanmar Co., Ltd. သည်ဘဏ်အာမခံကြေး ကျပ် ၁.၀၂ သန်းကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ တစ်လအတွင်း မြန်မာ့သဏ်ာကျင်း လုပ်ငန်းသို့ပေးသွင်းမည်ဖြစ်ပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလိုပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ် အပါအဝင်တစ်ဆက်တည်း (၃)နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေး ရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ကို တောင်းခံထား ရာ အောက်ပါအတိုင်း သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ၊ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြား ငွေပမာဏအပေါ်မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြား ငွေဖြင့်ရင်းနှီးမြှုပ်နှံမှုမပါရှိသည့်အတွက် အကျုံး ဝင်ခြင်းမရှိဟုသုံး သပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေပေါ်တွင် ၅၀ %ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ပထမဝင်ငွေခွန်ကင်းလွတ်ခွင့်(၃)နှစ်ခံစားပြီးသည့်နောက် ကော်မရှင်သို့လျှောက်ထားလာသည့်အခါ ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဂ)အရ ကုန်ထုတ်လုပ်မှုကြောင့် ပြည်တွင်းပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကိုလုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါ ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဃ)အရ နိုင်ငံတော်အတွက်အဓိကလိုအပ်သည် ဟုသတ်မှတ်သည့် ကုန်ထုတ်လုပ်မှုလုပ်ငန်း သို့မဟုတ် ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပြီး အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ်သင့်လျော်သောကာလအထိဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကိုအကျုံးဝင်ခြင်း မရှိဟု သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်တွင်ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကိုအမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံရန်တင်ပြလာသည့်အခါ ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့်မူလတန်ဖိုးပြည့်မီသည်အထိ အမြတ်ငွေမှနှုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဇ)အရ ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်ပမှတင်သွင်းသော စက်ပစ္စည်းကိရိယာများ နှင့်လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အခွန်အကောက်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များနှင့်ပတ်သက်၍ခွင့်ပြုမိန့်ရရှိပြီးသည့်နောက်မှ တင်သွင်းသည့်ရင်းနှီးကုန်ပစ္စည်းများအပေါ်တွင်သာ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ပထမ (၃) နှစ်အတွက်ကုန်ထုတ်လုပ်ရန် တင်သွင်းခွင့်ပြုသည့် ကုန်ကြမ်းနှင့်လုပ်ငန်းသုံးပစ္စည်းများအပေါ် တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကင်း လွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ည) အရ ထုတ်လုပ်မည့်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့် မှာ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၏ ၂၁-၅-၉၆ နေ့စွဲပါ အမိန့်ကြော်ငြာစာအမှတ်၊ ၇၇/၉၆အရ အကျုံးဝင်ပြီးဖြစ်ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) MS Woodwork Co. Ltd. အမည်ဖြင့် သစ်ကုန်ချော ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြု ရန် သဘောတူ-မတူ။

(ခ) သဘောတူပါက အထက်အပိုဒ် (၁၁) ပါ အခွန်ဆိုင်ရာကင်း လွတ်ခွင့်နှင့် သက်သာခွင့်များကိုပေးခွင့်ပြုရန်သဘော တူ-မတူ။

အတွင်းရေးမှူး (ကိုယ်စား)

[ မောင်မောင်ရီ၊ တွဲဖက်အတွင်းရေးမှူး ]

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။



*ဌ ၂၀/၈/၉၆။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

စာအမှတ်၊ ရက-၈ (က) ၀၁၇ / ၉၆(၁၇၄၆)
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဩဂုတ်လ (၂၁)ရက်

## အမှာစာ

အကြောင်းအရာ။ ။ကုမ္ပဏီလီမိတက်များ နှင့်အစုစပ်လုပ်ငန်းများ မှတ်ပုံတင်ခွင့်ပြုခဲ့ခြင်း နှင့်ကုမ္ပဏီ၏လုပ်ငန်း ရည်ရွယ်ချက်ပြောင်းလဲခွင့်ပြုခဲ့ခြင်း တို့ကိုအတည်ပြုပေးပါရန်တင်ပြခြင်း ။

၁။ ၁၉-၈-၉၆ ရက်နေ့တွင်ကျင်းပခဲ့သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၄/၉၆ ကြိမ်မြောက်အစည်းအဝေးသို့ အောက်ဖော်ပြပါမြန်မာကုမ္ပဏီလီမိတက်များ ၊ အစုစပ်လုပ်ငန်းများနှင့် နိုင်ငံခြားကုမ္ပဏီလီမိတက်များကို မှတ်ပုံတင်ခွင့်ပြုရန်တင်ပြခဲ့ပါသည် ။

(က) မြန်မာကုမ္ပဏီလီမိတက်များ

| | |
|---|---|
| - ရောင်းဝယ်ရေးလုပ်ငန်း | ၉၉ ခု |
| - ဝန်ဆောင်မှုလုပ်ငန်း | ၁၉ ခု |
| - စက်မှုလက်မှု၊ ထုတ်လုပ်မှုနှင့် ဆောက်လုပ်ရေးလုပ်ငန်း | ၁၉ ခု |
| - ခရီးသွားလုပ်ငန်း | ၉ ခု |
| - ကျောက်မျက်လုပ်ငန်း | ၁၉ ခု |
| စုစုပေါင်း | ၁၆၅ ခု |

၂-သို့

(ခ) အစုစပ်လုပ်ငန်းများ

| | |
|---|---|
| - ရောင်းဝယ်ရေး လုပ်ငန်း | ၁ ခု |
| - ဝန်ဆောင်မှုလုပ်ငန်း | ၁ ခု |
| စုစုပေါင်း | ၂ ခု |

(ဂ) နိုင်ငံခြားကုမ္ပဏီလီမိတက်များ

| | |
|---|---|
| - ရောင်းဝယ်ရေး လုပ်ငန်း | ၁၃ ခု |
| - ဝန်ဆောင်မှုလုပ်ငန်း (ရုံးခွဲ - ၃ - ခုအပါအဝင်) | ၅ ခု |
| စုစုပေါင်း | ၁၈ ခု |

၂။ ယင်းအစည်းအဝေးတွင်မြန်မာကုမ္ပဏီရောင်းဝယ်ရေးလုပ်ငန်း (၉၉) ခု၊ ဝန်ဆောင်မှုလုပ်ငန်း (၁၉) ခု၊ စက်မှုလက်မှု၊ ထုတ်လုပ်မှုနှင့်သောက်လုပ်ရေးလုပ်ငန်း (၁၉) ခု၊ ခရီးသွားလုပ်ငန်း (၉) ခု၊ ကျောက်မျက်လုပ်ငန်း (၁၉) ခု၊ စုစုပေါင်း မြန်မာကုမ္ပဏီလီမိတက် (၁၆၅) ခုကိုလည်းကောင်း၊ အစုစပ်လုပ်ငန်းတွင် ရောင်းဝယ်ရေးလုပ်ငန်း (၁) ခုနှင့်ဝန်ဆောင်မှုလုပ်ငန်း (၁) ခု၊ စုစုပေါင်း အစုစပ်လုပ်ငန်း (၂) ခုကိုလည်းကောင်း၊ နိုင်ငံခြားကုမ္ပဏီရောင်းဝယ်ရေးလုပ်ငန်း (၁၃) ခုနှင့်ဝန်ဆောင်မှုလုပ်ငန်း (၅) ခု၊ စုစုပေါင်း နိုင်ငံခြားကုမ္ပဏီလီမိတက် (၁၈) ခုတို့ကိုလည်းကောင်း၊ မှတ်ပုံတင်ခွင့်ပြုခဲ့ပါသည်။

၃။ သီးခြားအမှတ်စဉ်အဖြစ်တင်ပြခဲ့သော လေကြောင်းပို့ဆောင်ရေးလုပ်ငန်း ဆောင်ရွက်မည့်နိုင်ငံခြားကုမ္ပဏီရုံးခွဲ Royal Brunei Airlines Sdn Bhd - ၏လုပ်ငန်းရည်ရွယ်ချက်တွင် such as airport landing station hanger and garage services ဟူသောစာသားကိုပယ်ဖျက်စေလျက်မှတ်ပုံတင်ခွင့်ပြုခဲ့ပါသည်။

၄။ ရောင်းဝယ်ရေးလုပ်ငန်း ကုမ္ပဏီတစ်ခုဖြစ်သော နိုင်ငံခြားကုမ္ပဏီ Myanmar Narsco Co.,Ltd ၏ ရောင်းဝယ်ရေးလုပ်မည့် သွင်းကုန်၊ ထုတ်ကုန်၊ ကုန်ပစ္စည်းအမျိုးအစားများ တိုးမြှင့်ပြင်ဆင်ခွင့်ပြုရန်ကိစ္စကို သီးခြားအမှာစာဖြင့်တင်ပြခဲ့ရာ၊ အစားထိုး ပြင်ဆင်ခွင့်ပြုရန်သဘောတူခဲ့ပါသည် ။

၅။ သို့ပါ၍၊ ၁၉-၈-၉၆ ရက်နေ့တွင်ကျင်းပခဲ့သော ၁၄/၉၆ ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးက နိုင်ငံခြားကုမ္ပဏီ Myanmar Narsco Co.,Ltd၏ သွင်းကုန်၊ ထုတ်ကုန်ကုန်ပစ္စည်းအမျိုးအစားတိုး မြှင့်ပြင်ဆင်ခွင့်ပြုရန်သဘောတူညီခဲ့ခြင်းနှင့် အောက်ပါကုမ္ပဏီလီမိတက်များနှင့်အစုစပ်လုပ်ငန်းများ မှတ်ပုံတင်ခွင့်ပြုခဲ့ခြင်းကိုအတည်ပြုပေးပါရန်တင်ပြအပ်ပါသည် ။

(က) မြန်မာကုမ္ပဏီလီမိတက်များ

| | |
|---|---|
| - ရောင်းဝယ်ရေးလုပ်ငန်း | ၉၉ ခု |
| - ဝန်ဆောင်မှုလုပ်ငန်း | ၁၉ ခု |
| - စက်မှုလက်မှု၊ ထုတ်လုပ်မှုနှင့် ဆောက်လုပ်ရေးလုပ်ငန်း | ၁၉ ခု |
| - ခရီးသွားလုပ်ငန်း | ၉ ခု |
| - ကျောက်မျက်လုပ်ငန်း | ၁၉ ခု |
| စုစုပေါင်း | ၁၆၅ ခု |

(ခ) အစုစပ်လုပ်ငန်းများ

| | |
|---|---|
| - ရောင်းဝယ်ရေးလုပ်ငန်း | ၁ ခု |
| - ဝန်ဆောင်မှုလုပ်ငန်း | ၁ ခု |
| စုစုပေါင်း | ၂ ခု |

၄သို့

(ဂ) နိုင်ငံခြားကုမ္ပဏီလီမိတက်များ

| | |
|---|---|
| - ရောင်းဝယ်ရေး လုပ်ငန်း | ၁၃ ခု |
| - ဝန်ဆောင်မှုလုပ်ငန်း | ၆ ခု |
| (ရုံးခွဲ - ၄ - ခုအပါအဝင်) | |
| စုစုပေါင်း | ၁၉ ခု |

( မောင်မောင်ရီ )

ညွှန်ကြားရေးမှူးချုပ်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၅၅-ပဆ/ဌ(၁)၉၄
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဩဂုတ်လ ၂၀ ရက်

သို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်ရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မြန်မာ့သင်္ဘောကျင်းလုပ်ငန်းနှင့် Standard Myanmar Company Ltd. တို့သစ်သားသင်္ဘောလုပ်ငန်းဖက်စပ်ဆောင်ရွက်ရန်အတွက်တတိယအကြိမ်အဆိုပြုလွှာတင်ပြခြင်းကိစ္စ။

၁။ မြန်မာ့သင်္ဘောကျင်းလုပ်ငန်း၏သစ်သား [illegible]အား ပရိဘောဂ၊ တွန်းသင်္ဘောများ၊ ငါးဖမ်းသင်္ဘောများ စသည့်သစ်သားသင်္ဘောနှင့် ပတ်သက်သောလုပ်ငန်းများ ကိုပြည်တွင်း ပုဂ္ဂလိကအဖွဲ့အစည်း ပါဝင်ရှာဖွေသော Standard Myanmar Company Ltd. နှင့်ဖက်စပ်ပူးတွဲလုပ်ကိုင်မှုလုပ်ငန်းများ ဆောင်ရွက်ရန်အဆိုပြုတင်ပြချက်ကို ဝန်ကြီးဌာနမှ ၁၉၉၅ ခုနှစ်၊ ဇွန်လ ၂၂ ရက်နေ့စွဲပါစာအမှတ်၊ ၁၅၅-ပဆ/ဌ(၁)၉၄ ဖြင့်တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ ၁၉၉၅ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရင်းနှီးမြှုပ်နှံမှုအစည်းအဝေးသို့ မြန်မာ့သင်္ဘောကျင်းလုပ်ငန်း၊ ဦးဆောင်ညွှန်ကြားရေးမှူးတက်ရောက်၍အဆိုပြုချက်နှင့်စပ်လျဉ်း၍ ရှင်းလင်းတင်ပြချက်ကိုဥက္ကဋ္ဌနှင့်အဖွဲ့ဝင်များအားတင်ပြခဲ့ပါသည်။ ထိုတင်ပြချက်များအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်များနှင့်ကိုက်ညီစေသော ပြုပြင်မှုများကိုလည်း ပြုလုပ်ခဲ့ပါသည်။ ထိုသို့ပြင်ဆင်မှုများပြီး နောက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၅ ခုနှစ်၊ အောက်တိုဘာလ ၃ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၀၃၅/(၉၅ (၁၀၂၀) အရ၊ အဆိုပြုတင်ပြချက်များ ကိုခေတ္တရပ်ဆိုင်းထားရန်အကြောင်းကြားချက်အရ၊ အဆိုပြုတင်ပြရန်ကိစ္စကိုရပ်ဆိုင်းထားခဲ့ရပါသည်။

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ဥက္ကဋ္ဌနှင့်အဖွဲ့တို့သည် ၁၉၉၆ ခုနှစ်၊ ဇူလိုင်လ ၂၉ ရက်နေ့တွင်မြန်မာ့သင်္ဘောကျင်းလုပ်ငန်း သစ်သားယည်စက်ရုံသို့လာရောက်စစ်ဆေးကြည့်ရှုရာတွင် ၁၉၉၅ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်နေ့စွဲပါ ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀/၉၅ ကြိမ်မြောက်ကြိုတင်ညှိနှိုင်းစည်းဝေးဆုံးဖြတ်ချက်အရ၊ ပြင်ဆင်ဆောင်ရွက်ပြီးစီးမှုအခြေအနေ (၄) ရပ်ကို အောက်ပါအတိုင်း တင်ပြခဲ့ပါသည်။

| ဆောင်ရွက်ပြီးစီးမှုအခြေအနေ | စာချုပ်အပိုဒ် |
|---|---|
| (က) မတည်ထည့်ဝင်ငွေအမျိုးအစားကိုမြန်မာ့သင်္ဘောကျင်းလုပ်ငန်းမှ ၅၅ % နှင့်စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်မှ ၄၅ % သတ်မှတ်ခြင်း | (၁.၂.၁.၃) |
| (ခ) မြန်မာ့သင်္ဘောကျင်းလုပ်ငန်းနှင့်ပတ်သက်သည့်မြေများကိုချန်လှပ်၍ မြေဧရိယာကို ၂.၂၅ ဧက သတ်မှတ်ပြီး မြေငှားရမ်းခနှုန်းမှာ Covered area အတွက်တစ်စတုရန်းမီတာလျှင် ၁၅၀ ကျပ် နှင့် Uncovered area အတွက် ၈ ကျပ် နှုန်းသတ်မှတ်ခြင်း | (၁၁.၃) |
| (ဂ) မြေငှားရမ်းသက်တမ်းကိုကနဦး ၁၅ နှစ်နှင့် နောက်ထပ် ၅ နှစ်တိုးမြှင့်ခွင့်ပြုခြင်း | (၁၁.၄) |
| (ဃ) အကျိုးဆောင်ခကြေးအဖြစ် Standard Myanmar Co.မှထည့်ဝင်မည့်မတည်ငွေရင်း၏ ၁၀ % သတ်မှတ်ခြင်း | (၁၅.၁) |

၄။ ဖြည့်ဆောင်ရန်မြန်မာနိုင်ငံတော်ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Standard Myanmar Co. Ltd. ၏ ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများ ပို့အပ်သဖြင့် တောင်းခံခြင်းကိုလည်း မြန်မာ့သင်္ဘောကျင်းလုပ်ငန်းမှ ၁၉၉၅ ခုနှစ်၊ ဇူလိုင်လ ၂၀ ရက်နေ့စွဲပါစာအမှတ်၊ ၂၂၁၂-၉၆-၂ ဖြင့် အောက်ပါအထောက်အထားများကိုတင်ပြခဲ့ပါသည်။

(က) ကုမ္ပဏီ၏မှတ်ပုံတင်လက်မှတ်

(ခ) ကုမ္ပဏီ၏ဘဏ်စာရင်းလက်ကျန်သက်သေခံလက်မှတ်

(ဂ) ကုမ္ပဏီပိုင်ဆိုင်သောစက်ပစ္စည်းများစာရင်း

Standard Myanmar Co.Ltd. သည်ဤဖက်စပ်လုပ်ငန်း ဖြင့်သာလုပ်ငန်း စတင်လည်ပတ် ဆောင်ရွက်ရန်ဖြစ်သဖြင့်ဘဏ္ဍာရေး ရှင်းတမ်း များကိုမှတင်ပြ နိုင်ခြင်း မရှိသေး ပါကြောင်း ဖော်ပြလိုပါသည်။

၅။ မူလအဆိုပြုတင်ပြစဉ်အချိန်မှစ၍တစ်နှစ် ကျော်ကြာမြင့်ခဲ့ပြီဖြစ်ပြီး မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ဥပဒေမှလည်း မြန်မာ့သင်္ဘောကျင်းလုပ်ငန်း သို့ လာရောက်စစ်ဆေးပြီး ဖြစ်ရပ်ပြန်လည်ပြင်ဆင်မှုများ နှင့်အတူအဆိုပြုချက်အသစ် ကို ထပ်မံတင်ပြအပ်ပါသည်။ ဖေါ်ပြပါအဆိုပြုချက်အား ပြည်ထောင်စုမြန်မာနိုင်ငံတော် ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြနိုင်ရန်အတွက်အဆိုပြုလွှာ ၃၅ စောင်ကိုဖြည့် စွက်ပြီး တင်ပြအပ်ပါသည်။ မြန်မာ့သင်္ဘောကျင်းလုပ်ငန်း နှင့် Standard Myanmar Co. Ltd. ၏ကုမ္ပဏီဖွဲ့စည်း မှုနှင့်အခြား သက်ဆိုင်သောစာရွက်စာတမ်း များကိုလည်း တစ်ပါတည်း ပူးတွဲတင်ပြအပ်ပါသည်။

၆။ ပြည်ထောင်စုမြန်မာနိုင်ငံတော်မြန်မာနိုင်ငံသား များ ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ အရ၊ ရင်းနှီးမြှုပ်နှံမှုအပေါ်အခွန်ကင်း လွတ်ခွင့်နှင့်သက်သာခွင့် များ ခံစား ခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )

( တင်မောင်ငြိ – ရုံးအဖွဲ့မှူး )

မိတ္တူကို –

– ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့သင်္ဘောကျင်းလုပ်ငန်း

ဒိ၆ / –

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

ရက်စွဲ၊ ၁၉၉၆ ခုနှစ်ဩဂုတ်လ (၂၀) ရက်

အကြောင်းအရာ။ ။ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ကတိဝန်ခံချက်ပြုခြင်း၊

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ ကျွန်တော်များ စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်သည်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ၊ ရန်ကုန်တိုင်း၊ ကမာရွတ်မြို့နယ်၊ မြန်မာ့သဘောကျင်းလုပ်ငန်း၌ မြန်မာ့သဘောကျင်းလုပ်ငန်းနှင့် သစ်သားတည်လုပ်ငန်း ဖက်စပ်ဆောင်ရွက်ခွင့်ပြုပါရန် ခွင့်ပြုမိန့်( Permit )ထုတ်ပေးနိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါလုပ်ငန်းသည် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံသူများသာ ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားသား မည်သူတစ်ဦးတစ်ယောက်မျှ ပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံဂတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

(သိန်းထွန်း)
ဥက္ကဋ္ဌ
စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

ပို့ဆောင်ရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၁၅၅-ပဒ/ ခွဲ(၁) ၉၄ (၁၆၀/၉၆)

ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဩဂုတ်လ ၁၄ ရက်

သို့

ပြည်ထောင်စုမြန်မာနိုင်ငံတော်ရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မြန်မာ့သင်္ဘောကျင်းလုပ်ငန်း နှင့် Standard Myanmar Company Ltd တို့သစ်သားထည် လုပ်ငန်း ဖက်စပ် ဆောင်ရွက်ရန်အတွက်တတိယအကြိမ် အဆိုပြုတင်ပြခြင်းကိစ္စ**

၁။ မြန်မာ့သင်္ဘောကျင်းလုပ်ငန်း ၏သစ်သားထည်ပစ္စည်း စက်ရုံအား ပရိဘောဂ၊ ကြမ်းခင်းတုံးများ၊ တံခါးဘောင်များ စသဖြင့်သစ်သားထည် နှင့်ပတ်သက်သော လုပ်ငန်းများကိုပြည်တွင်း ပုဂ္ဂလိကအဖွဲ့အစည်း တစ်ခုဖြစ်သော Standard Myanmar Company Ltd နှင့်ဖက်စပ်ထုတ်လုပ်မှုလုပ်ငန်းများ ဆောင်ရွက်ရန်အဆိုပြုတင်ပြချက်ကို ဝန်ကြီးဌာနမှ ၁၉၉၅ ခုနှစ်၊ ဇွန်လ ၂၂ ရက်နေ့စွဲပါစာအမှတ်၊ ၁၅၅-ပဒ/ခွဲ(၁)၉၄ ဖြင့်တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ ၁၉၉၅ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ပထမ ရင်းနှီးမြှုပ်နှံမှုအစည်းအဝေးသို့ မြန်မာ့သင်္ဘောကျင်းလုပ်ငန်း၊ ဦးဆောင်ညွှန်ကြားရေးမှူး တက်ရောက်၍ အဆိုပြုချက်နှင့်စပ်လျဉ်းသည့်ရှင်းလင်းတင်ပြချက်ကိုဥက္ကဋ္ဌနှင့်အဖွဲ့ဝင်များထံ တင်ပြခဲ့ပါသည်။ ထိုတင်ပြချက်များအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သုံးသပ်ချက်များနှင့်အညီ လိုအပ်သောပြုပြင်မှုများကိုလည်း ပြုလုပ်ခဲ့ပါသည်။ ထိုသို့ပြင်ဆင်မှုများ ပြုပြီးနောက်၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၅ ခုနှစ်၊ အောက်တိုဘာလ ၃ ရက်စွဲပါ

စာအမှတ်၊ ဂုတ-၁/မ-၁၃၅/၈၅(၁၀၂၀)အရ၊ အဆိုပြုတင်ပြချက်များကို ခေတ္တ ရပ်ဆိုင်းထား ရန်အကြောင်းကြားချက်အရ၊ အဆိုပြုတင်ပြရန်ကိစ္စကို ရပ်ဆိုင်းထားခဲ့ရပါသည်။

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ဥက္ကဋ္ဌနှင့်အဖွဲ့တို့သည် ၁၉၉၈ ခုနှစ်၊ ဇူလိုင်လ ၂၉ ရက်နေ့တွင် မြန်မာ့သတ္တုတွင်းလုပ်ငန်း သစ်သားဆက်စက်ရုံသို့လာရောက်စစ်ဆေးကြည့်ရှုရာတွင် ၁၉၉၈ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်နေ့တွင်ပါမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀/၉၅ ကြိမ်မြောက်ကြိုတင်ညှိနှိုင်းစည်းဝေးဆုံးဖြတ်ချက်အရ၊ ပြင်ဆင်ဆောင်ရွက်ပြီးစီးမှုအခြေအနေ (၄) ရပ်ကို အောက်ပါအတိုင်း တင်ပြခဲ့ပါသည်။

| ဆောင်ရွက်ပြီးစီးမှုအခြေအနေ | စာချုပ်အပိုဒ် |
|---|---|
| (က) မတည်ထည့်ဝင်ငွေအမျိုးအစားကိုမြန်မာ့သတ္တုတွင်းလုပ်ငန်းမှ ၅၅ % နှင့် စတင်ဒတ်မြန်မာကုမ္ပဏီလီမိတက်မှ ၄၅ % သတ်မှတ်ခြင်း | (၁.၂.၁.၃) |
| (ခ) သတ္တုတွင်းလုပ်ငန်းနှင့်ပတ်သက်သည့်မြေများကိုချန်လှပ်ထားမြေဧရိယာကို ၂.၂၅ဧက သတ်မှတ်ပြီး မြေငှားရမ်းခနှုန်းမှာ Covered area အတွက်တစ်စတုရန်းမီတာလျှင်၁၅၀ကျပ် နှင့် Uncovered area အတွက် ၈၀ကျပ်နှုန်း သတ်မှတ်ခြင်း | (၁၁.၃) |
| (ဂ) မြေငှားရမ်းသက်တမ်းကိုကနဦး ၁၅နှစ် နှင့်နောက်ထပ် ၅ နှစ်ထိုးမြှင့်ခွင့်ပြုခြင်း | (၁၁.၄) |
| (ဃ) ဘဏ်အာမခံကြေးအဖြစ် Standard Myanmar Co. မှထည့်ဝင်မည့် မတည်ငွေရင်း၏ ၁၀ % သတ်မှတ်ခြင်း | (၁၅.၁) |

မြန်မာ့သစ်တော်ကျေင်းလုပ်ငန်း

နှင့်

စကင်းဒတ်မြန်မာကုမ္ပဏီလီမိတက်

တို့၏

**သစ်အခြေခံပစ္စည်းထုတ်လုပ်ရေးဖက်စပ်လုပ်ငန်း**

ပဋိညာဉ်စာချုပ်

နေ့စွဲ။ ။၁၉၉၆ခုနှစ် လ ရက်

# မာတိကာ

(ခ) မြန်မာ့သဘော်ကျင်းလက်ရှိအဆောက်အဦး၊ စက်ပစ္စည်းများ
နှင့်စက်ကရိယာများ၏ တန်ဖိုး (နောက်ဆက်တွဲ - ခ)

(ဂ)(၁) စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်၏ သစ်လုပ်ငန်း
စက်ပစ္စည်းများ၏ တန်ဖိုး (နောက်ဆက်တွဲ - ဂ)

(၂)မြန်မာ့သဘော်ကျင်းလုပ်ငန်း၏လက်ရှိစက်ပစ္စည်းများနှင့်
စက်ကရိယာများ (နောက်ဆက်တွဲ - ဂအဆက်)

(ဃ) ဖက်စပ်လုပ်ငန်း၏ သစ်အခြေခံစက်မှုလုပ်ငန်း၏ဖွဲ့စည်းပုံ
ဇယား (နောက်ဆက်တွဲ - ဃ)

(င) နှစ်အလိုက်ဝန်ထမ်းများခန့်ထားခြင်း (နောက်ဆက်တွဲ - င)

၂၆။ ဌားရမ်းခြင်းသဘောကတိတူစာချုပ် (နောက်ဆက်တွဲ - စ)

၂၇။ ရှေနေချုပ်ရုံးသဘောထားမှတ်ချက် (နောက်ဆက်တွဲ - ဆ)

၂၈။ တွက်ချက်မှုစာရင်းဇယားများ (နောက်ဆက်တွဲ - )

**(Appendix 1to Appendix 9)**

မြန်မာ့သစ်တောကျင်းလုပ်ငန်း

နှင့်

စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်

တို့၏

# သစ်အခြေခံပစ္စည်းထုတ်လုပ်ရေး ဖက်စပ်လုပ်ငန်း ပဋိညာဉ်စာချုပ်

ဤဖက်စပ်လုပ်ငန်း ပဋိညာဉ်စာချုပ်ကို ရန်ကုန်မြို့၌ ၁၉၉၆ ခုနှစ်          လ          ရက်နေ့တွင်-

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၏ ပို့ဆောင်ရေးဝန်ကြီးဌာန လက်အောက်ရှိ၊ မြန်မာ့သစ်တောကျင်းလုပ်ငန်းသည်၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ဆင်မလိုက်ရပ်ကွက်တွင် တရားဝင်တည်ရှိ၍ ထိုလိပ်စာမှာ တရားဝင်လိပ်စာဖြစ်ပါသည်။ (နောင်တွင် အဖွဲ့အစည်း   က ဟု ခေါ်တွင်စေရမည်၊ အဆိုပါအဖွဲ့အစည်း က ဟူသောစကားရပ်တွင် အဆိုပါအဖွဲ့အစည်းနှင့် လုပ်ငန်းကို ဆက်ခံသော အဖွဲ့အစည်းနှင့် ခွင့်ပြုလွှဲအပ်သော အဖွဲ့အစည်းများ၊ တရားဝင် ကိုယ်စားလှယ်များလည်း အကျုံးဝင်ပါသည်) ထိုအဖွဲ့အစည်းကို ကိုယ်စားပြုသူ ဦးဆောင်ညွှန်ကြားရေးမှူး ဦးပါစီမောင်မောင်က ပထမတစ်ဖက်နှင့်-

ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် တည်ထောင်ဖွဲ့စည်းထားပြီးဖြစ်သော ပုဂ္ဂလိကကုမ္ပဏီလီမိတက်ဖြစ်သည့် စတင်းဒတ်မြန်မာ ကုမ္ပဏီလီမိတက်၊ အမှတ် ၁၂(က)၊ အင်းယားမြိုင်လမ်း၊ ဗဟန်းစာတိုက်၊ ရန်ကုန်မြို့၊ ပြည်ထောင်စုမြန်မာနိုင်ငံတော် (နောင်တွင်အဖွဲ့အစည်း   ခ   ဟု ခေါ်တွင်စေရမည်။ အဆိုပါအဖွဲ့အစည်း   ခ   ဟူသောစကားရပ်တွင် ၎င်းအဖွဲ့အစည်းကို ဆက်ခံသူများ လွှဲအပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များလည်း အကျုံးဝင်ပါသည်။) ကို ကိုယ်စားပြုသူ ဦးဆောင်ညွှန်ကြားရေးမှူး ဦးဘိုကျော်က အခြားတစ်ဖက်တို့သည် အောက်ဖော်ပြပါ စည်းကမ်းချက်များ သတ်မှတ်၍ သစ်အခြေခံ ပစ္စည်း ထုတ်လုပ်ရေး ဖက်စပ်လုပ်ငန်းဆောင်ရွက်ရန် ဤစာချုပ်ကို ချုပ်ဆိုကြပါသည်။

## အခန်း(၁)
## ဖက်စပ်လုပ်ငန်း ကုမ္ပဏီဖွဲ့စည်းတည်ထောင်ခြင်း

၁-၁ ဖော်ပြပါအဖွဲ့အစည်းနှစ်ဖွဲ့တို့က မြန်မာ့သစ်တောကျင်း သစ်သားထည်လုပ်ငန်း (အမ်အက်စ်ဂု(ဒ်)ဝါ(ဒ်) ကုမ္ပဏီလီမိတက်) ဖက်စပ်ကုမ္ပဏီကို ၁၉၅၀ ပြည့်နှစ်၊ အထူးကုမ္ပဏီ အက်ဥပဒေအရ မြန်မာနိုင်ငံတွင် အများနှင့်မသက်ဆိုင်သော ဖက်စပ်ကုမ္ပဏီဖွဲ့စည်းတည်ထောင်၍ မြန်မာ့သစ်တောကျင်းပိုင်လုပ်ငန်းနယ်မြေရှိ တည်ရှိပြီးသား သစ်ထုတ်လုပ်ရေးစက်ကိရိယာများ(နောက်ဆက်တွဲ-ဂ) အပြင် အခြားစက်ကိရိယာများ တိုးချဲ့သုံးစွဲ၍ တန်ဘိုးမြင့် သစ်ပစ္စည်းများကို ထုတ်လုပ်ပြီး ပြည်တွင်းနှင့်ပြည်ပရှိ ဈေးကွက်များတွင် ကူးသန်းရောင်းဝယ်မည် ဖြစ်ပါသည်။

## အခန်း(၄)
## <u>အမ်အက်စ် ဝု(ဒ်)ဝါ(ခ်) ကုမ္ပဏီလီမိတက်( ဖက်စပ်ကုမ္ပဏီ) ၏တာဝန်များ</u>

အမ်အက်စ် ဝု(ဒ်)ပါ(ခ်) ကုမ္ပဏီလီမိတက် (ဖက်စပ်ကုမ္ပဏီ)၏ တာဝန်များမှာ-

(၄.၁) လိုအပ်သော ကုန်ကြမ်းများကို ရှာဖွေပေးရန်။

(၄.၂) သစ်လုံးများခွဲစိပ်ခြင်း၊ ခွဲသားများပြန်လည်ခွဲခြမ်းခြင်းများအတွက် လိုအပ်သော လုပ်ကိုင်ခွင့် လိုင်စင်များ ရယူပေးရန်။

(၄.၃) ဖက်စပ်ကုမ္ပဏီ၏ အကျိုးအမြတ်များရရှိစေရန်နှင့် အောင်မြင်စေရန်အတွက် အကောင်အထည်ဖော်ရန်။

(၄.၄) လက်ရှိရင်းနှီးထည့်ဝင်ငွေထက် ပိုမိုသည့်ရင်းနှီးထည့်ဝင်ငွေများလိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ မြန်မာ့သဘောကျင်းလုပ်ငန်းနှင့် စတင်းဒတ်မြန်မာ ကုမ္ပဏီလီမိတက်တို့သည် ရင်းနှီးမြှုပ်နှံမှုငွေ ထပ်မံရှာဖွေကြရန် ဖြစ်ပါသည်။

## အခန်း(၅)
## <u>အာမခံထားရှိခြင်း</u>

(၅.၁) ဖက်စပ်လုပ်ငန်းအတွက် လိုအပ်သော အာမခံများကို မြန်မာ့အာမခံ ဥပဒေ၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေများနှင့်အညီ ထားရှိရမည်။

## အခန်း(၆)
## <u>ဖက်စပ်ကုမ္ပဏီ၏ မြှုပ်နှံမှုမတည်ငွေရင်း</u>

(၆-၁) ခွင့်ပြုရင်းနှီးငွေ ကျပ် ၁၀၀,၀၀၀,၀၀၀/-(ကျပ်သန်းတစ်ရာတိတိ)

(၆-၂) ပေးသွင်းပြီးရင်းနှီးငွေ ကျပ် ၂၂,၆၆၆,၀၀၀/-(ကျပ်နှစ်ဆယ့်နှစ်သန်း၊ ခြောက်သိန်းခြောက်သောင်း၊ ခြောက်ထောင်တိတိ) ဖြစ်ပါသည်။

နှစ်သောင်းခုနှစ်ထောင်တိတိ)နှင့် ငွေသားထည့်ဝင်ငွေ ကျပ် ၂,၆၂၃,၀၀၀/-(ကျပ်နှစ်သန်း ခြောက်သိန်း၊ နှစ်သောင်း၊ သုံးထောင်တိတိ)ကို အကျိုးတူရှယ်ယာ ၄၅%(လေးဆယ့်ငါးရာခိုင်နှုန်း) သတ်မှတ်ပါသည်။

အခန်း(၉)

<u>အမြတ်ခွဲဝေခြင်း</u>

(၉.၁) ဖက်စပ်လုပ်ငန်းမှ ဖြစ်ပေါ်လာမည့်အမြတ်ကို မတည်ထည့်ဝင်ငွေအချိုးအစားအတိုင်း (၅၅း ၄၅) ရာခိုင်နှုန်းခွဲဝေယူကြရန်၊ နှစ်ဖက်အဖွဲ့အစည်းတို့က သဘောတူညီကြပါသည်။

အခန်း(၁၀)

<u>ဖက်စပ်ကုမ္ပဏီအတွက် မြန်မာ့သတ္တုကျင်းလုပ်ငန်းပိုင်မြေကို ငှားရမ်းခြင်း</u>

(၁၀.၁) မြန်မာ့သတ္တုကျင်းလုပ်ငန်းသည် ၎င်းပိုင်မြေကို နောက်ဆက်တွဲ(က)တွင် ဖော်ပြထားသည့် အတိုင်း အမ်အက်စ် ဂု(ဒ်)ဝါ(ခ်)ကုမ္ပဏီလီမိတက် (ဖက်စပ်ကုမ္ပဏီ) အတွက် မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ဖြင့် ငှားရန်လက်ခံထား ပါသည်။

(၁၀.၂) ဖက်စပ်ကုမ္ပဏီမှ မြန်မာ့သတ္တုကျင်းတွင် နောက်ထပ် လုပ်ငန်းတိုးချဲ့ရန်အတွက် မြေကို လိုအပ်လျှင် နောက်ဆက်တွဲ(က)တွင် သဘောတူထားသည့်အတိုင်း ငှားရမ်းပိုင်ခွင့်ရှိသည်။

(၁၀.၃) အစိုးရ၏ မြေငှားရမ်းခွင့် မူဝါဒအပေါ် အခြေခံလျက် မြေငှားရမ်းခကို နောက်ဆက်တွဲ(က)တွင် ဖော်ပြထားသည့် မြေဧရိယာအပေါ် မြေငှားရမ်းခမှာ ပထမ (၅)နှစ် အတွင်း တစ်နှစ်လျှင် ကွင်းပြင်ဧရိယာ စတုရန်းမီတာ ၆၀၇၉.၆အတွက် တစ်စတုရန်းမီတာ လျှင် ကျပ်၈၀/-နှုန်းဖြင့်လည်းကောင်း၊ အဆောက်အဦးတည်ရှိသော ဧရိယာစတုရန်းမီတာ ၃၀၂၅.၈အတွက် တစ်စတုရန်းမီတာလျှင် ကျပ်၁၅၀/-နှုန်းဖြင့် စုစုပေါင်းဧရိယာ ၂.၂၅ဧက အတွက် ကျပ်၉၄၆,၃၀၀/-(ကျပ်ကိုးသိန်း လေးသောင်း ခြောက်ထောင်သုံးရာတိတိ) ဖြစ်၍ ကနဦး (၁၅)နှစ်အတွက် ငှားရမ်းရန် မြန်မာ့သတ္တုကျင်းလုပ်ငန်းက သဘောတူပါသည်။ ငှားရမ်းခကို (၅)နှစ်လျှင်တစ်ကြိမ် နှစ်ဦးနှစ်ဖက်လက်ရှိနှုန်းထားထက် ၁၅ရာခိုင်နှုန်း ထက်မပိုသော နှုန်းထားဖြင့် ပြန်လည်ညှိနှိုင်း သုံးသပ်မည်။ ငှားရမ်းစာချုပ်များ နှင့် စပ်လျဉ်း၍ ငှားရမ်းပြီး သဘောတူကတိစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ ဆောင်ရွက်ရန် နှစ်ဦးနှစ်ဖက် သဘောတူညီကြပါသည်။

(၁၀.၄) (၁၅)နှစ် ငှားရမ်းခြင်း ပြီးစီးပြီးနောက် ဖက်စပ်ကုမ္ပဏီက ငှားရမ်းခြင်းကာလကို တိုးမြှင့်လို လျှင် နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ နောက်ထပ်(၅)နှစ်သက်တမ်းတိုးမြှင့်ခွင့်ရှိသည်။ ထိုသို့ သက်တမ်းတိုးမြှင့်လိုလျှင် (၁၅)နှစ် မတိုင်မီ (၃)နှစ် (သုံးနှစ်)ကြိုတင်၍ စာဖြင့် အကြောင်းကြားရမည်။ အသစ်ငှားရမ်းခြင်းကာလအတွက် ပဋိညာဉ်အသစ်ကို ပြန်လည်ချုပ်ဆို၍ ငှားရမ်းခ အသစ် နှုန်းဖြင့် ပြင်ဆင်ညှိနှိုင်းရမည်။

## အခန်း(၁၃)
## ဝန်ထမ်းများခန့်ထားခြင်း

(၁၃.၁) နိုင်ငံသားများကို ဦးစားပေး၍ ခန့်ထားခြင်းဖြင့် လုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်ရန် ရည်ရွယ်ပါသည်။

(၁၃.၂) နိုင်ငံသားများ အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိရေးကိုဦးတည်၍ အလုပ်သမားများခန့်ထားခြင်းကို မျက်ခြည်မပြတ် ဂရုစိုက်ရန်ရည်ရွယ်သည်။

(၁၃.၃) အလုပ်သမားများ ခန့်ထားသည့်အရေအတွက်များကို နောက်ဆက်တွဲ(င)တွင် နှစ်အလိုက်ဖော်ပြထားပါသည်။

## အခန်း(၁၄)
## ဘဏ်အာမခံကြေးပေးသွင်းခြင်း

(၁၄.၁) စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်သည် မိမိထည့်ဝင်ရမည့်အစုငွေ၏ ၁၀ ရာခိုင်နှုန်းဖြစ်သော ကျပ် ၁၀,၂၀၀၀၀/- (ကျပ်တစ်သန်းနှစ်သောင်းတိတိ) ကို ဘဏ်အာမခံကြေးအဖြစ် မြန်မာ့သတ္တုကျင်းလုပ်ငန်းက သတ်မှတ်ပေးသည့် ဘဏ်တစ်ခုခုတွင် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ တစ်လအတွင်းထားရှိ၍ ဘဏ်အာမခံလက်မှတ်ကိုရယူပြီး မြန်မာ့သတ္တုကျင်းလုပ်ငန်းသို့ ပေးအပ်ရမည်။ ၎င်းဘဏ်အာမခံလက်မှတ်ကို ကုန်ထုတ်လုပ်ငန်းစတင်သောအခါ စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်က ပြန်လည်ရယူပြီး အာမခံခြင်းမှကင်းလွတ်ခွင့်ရှိသည်။

(၁၄.၂) စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်သည် သတ်မှတ်ကာလအတွင်း လုပ်ငန်းဆောင်ရွက်ရန်ပျက်ကွက်ခဲ့လျှင် မြန်မာ့သတ္တုကျင်းလုပ်ငန်းက ယင်းဘဏ်အာမခံကြေးငွေများကို သိမ်းယူခွင့်ရှိစေ ရမည်။

## အခန်း(၁၅)
## မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များ

(၁၅.၁) မလွှဲမရှောင်နိုင်သည့် သဘာဝဘေးအန္တရာယ်များဖြစ်သည့် ရေကြီးခြင်း၊ မီးလောင်ခြင်း၊ လေမုန်တိုင်းကျရောက်ခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ မြေငလျင်တုန်လှုပ်ခြင်းနှင့် အလားတူထိန်းချုပ်၍မရနိုင်သော ဖြစ်ရပ်များ သို့မဟုတ် မည်သည့်ကြိုးစားအားထုတ်မှုဖြင့် တားဆီးမရနိုင်သော ဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ထမ်းဆောင်ရန်ပျက်ကွက်ပါက အဆိုပါမလွှဲမရှောင်သာနိုင်သည့် ဖြစ်ရပ်များပေါ်ပေါက်ကြောင်းကို ဖြစ်ပေါ်သည့်အချိန်မှ (၁၄)ရက်အတွင်း အခြားအဖွဲ့အစည်းသို့ အမြန်အကြောင်းကြားရမည်။ အခြားတစ်ဖက်ကလည်း မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ် ပေါ်ပေါက်ကြောင်း လက်ခံပါက စာချုပ်

(ခ) အဖွဲ့အစည်းတစ်ဖွဲ့ဖွဲ့က ပဋိညာဉ်ပါ အဓိကစည်းကမ်းချက် တစ်ရပ်ရပ်ကို ဖေါက်ဖျက်ကျူးလွန်လာခြင်း။

(ဂ) ဖက်စပ်ကုမ္ပဏီ၏ မူလရည်ရွယ်ချက်နှင့် ရည်မှန်းချက်များကို အကောင်အထည်ဖေါ်ရန်မဆောင်ရွက်နိုင်တော့ခြင်း၊ သို့မဟုတ်

(ဃ) နှစ်ဖက်အဖွဲ့အစည်းအချင်းချင်း ရပ်စဲရန် စာဖြင့်ရေးသား သဘောတူခြင်း၊

(င) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သောဖြစ်ရပ်များ အနည်းဆုံး ၆ လ ဆက်တိုက်ဖြစ်ပေါ်လာခြင်း ။

(၁၈. ၂) ပဋိညာဉ်စာချုပ်ကိုရပ်စဲခြင်းပြုရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အတည်ပြုချက်ကို ရယူရမည်ဖြစ်သည်။

အခန်း(၁၉)

<u>လွှမ်းမိုးသော ဥပဒေ</u>

(၁၉.၁) ဤစာချုပ်ကို လွှမ်းမိုးသော ဥပဒေသည် မြန်မာနိုင်ငံ၏ ဥပဒေများဖြစ်သည်။ ဤစာချုပ်ပါ နှစ်ဦးနှစ်ဖက်လုံးတို့သည် စီရင်ပိုင်ခွင့်ရှိသော သက်ဆိုင်ရာမြန်မာတရားရုံးနှင့် အယူခံမှုများကို ကြားနာနိုင်သော တရားရုံးအားလုံး၏ စီရင်ပိုင်ခွင့်ကို လက်ခံသည်။

အခန်း(၂၀)

<u>စာချုပ် အတည်ဖြစ်ခြင်း</u>

(၂၀.၁) ဤသဘောတူစာချုပ်သည် စာချုပ်ကို အကောင်အထည်ဖေါ်ရန် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ သက်ဆိုင်ရာအာဏာပိုင်ထံမှ ချအပ်သော ခွင့်ပြုချက်များရရှိမှသာ အကျိုးသက်ရောက် မှုရှိသည်။

အခန်း(၂၁)

<u>ပဋိညာဉ်စာချုပ်ကို ပြောင်းလဲပြုပြင်ခြင်း</u>

(၂၁.၁) နှစ်ဖက်သော အဖွဲ့အစည်းများသည် မမျှော်လင့်သော အခြေအနေတစ်ရပ်ရပ်ကြောင့် ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန်လိုအပ်ခဲ့လျှင် ပဋိညာဉ်စာချုပ်တွင် လိုအပ်သောပြင်ဆင်ချက်များကိုသဘောတူပြုလုပ်နိုင်သည်။ ထိုသို့ပြင်ဆင်ရာတွင် နှစ်ဦးနှစ်ဖက်တို့သည် တရားဝင်စာဖြင့်သဘောတူညီချက်အရ ပြုလုပ်နိုင်သည်။ စာချုပ်ပြင်ဆင်ခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏အတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်စေရမည်။

အခန်း(၂၅)

## အာမခံ နှင့် ကိုယ်စားပြုခြင်း

(၂၅.၁) ဤစာချုပ်တွင် လက်မှတ်ရေးထိုးသူ နှစ်ဦးနှစ်ဖက်လုံးသည် သဘောတူစာချုပ်ချုပ်ဆိုရန် ဥပဒေအရ လုပ်ပိုင်ခွင့်အာဏာနှင့်ငွေကြေးအင်အား ပြည့်စုံသူများဖြစ်ကြောင်း အာမခံပါသည်။

အထက်ဖော်ပြပါစည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် ၊ အောက်ပါအသိသက်သေ လူကြီးမင်းများ ရှေ့မှောက်တွင် ပဋိညာဉ်စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့ကိုယ်တိုင် လက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည်။

| | |
|---|---|
| ----------------- | ----------------- |
| ဦးပါစီမောင်မောင် | ဦးဘိုကျော် |
| ဦးဆောင်ညွှန်ကြားရေးမှူး | ဦးဆောင်ညွှန်ကြားရေးမှူး |
| မြန်မာ့သဘောကျင်းလုပ်ငန်း | စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက် |
| လိပ်စာ-ဆင်မလိုက်၊ ကမာရွတ် | လိပ်စာ-အမှတ်၁၂(က) |
| ရန်ကုန်မြို့။ | အင်းယားမြိုင်လမ်း၊ ရန်ကုန်မြို့ |
| | |
| ရှေ့မှောက်တွင် | ရှေ့မှောက်တွင် |
| | |
| ဦးစိုးသိမ်း | ဦးသိန်းထွန်း |
| အထွေထွေမန်နေဂျာ(ထုတ်လုပ်ရေး) | ဥက္ကဋ္ဌ |
| မြန်မာ့သဘောကျင်းလုပ်ငန်း | စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက် |

နောက်ဆက်တွဲ-က




<u>မြေဧရိယာ</u>

၁။ ၂၇၀' x ၁၄၀' = ၃၇၈၀၀.၀၀ စတုရန်းပေ

၂။ ၃၇၅' x ၁၆၀' = ၆၀၀၀၀.၀၀ စတုရန်းပေ

----------------

၉၇၈၀၀.၀၀ စတုရန်းပေ

၉၇၈၀၀.၀၀ စတုရန်းပေ =(၄၈၄၀x၉) စတုရန်းပေ/ဧက

=၂.၂၅ ဧက




MYANMA SHIPYARDS

GENERAL LAYOUT PLAN

SCALE = 1: 3000

မြန်မာ့သင်္ဘောကျင်းလုပ်ငန်း၏ တိုးချဲ့အဆောက်အဦး စက်ပစ္စည်းများနှင့်
စက်ကရိယာ တန်ဆာပလာ များကိုတန်ဘိုးဖြတ်ခြင်း

| | | ကျပ် |
|---|---|---|
| ၁။ | သစ်အခြေခံအရောင်းဆိုင် အဆောက်အဦး<br>(၂၀၀' X ၁၂၀' ) အာရ်စီအဆောက်အဦး | ၅၉၄၉၇၀၀ |
| ၂။ | မီးခံအုပ်ဖြင့် ဆောက်လုပ်ထားသည့်<br>အခြောက်ခံအဆောက် အဦး ( ၇၅' X ၆၀')<br>သစ်ညှပ်ဘိလပ်မြေအဆောက် အဦး<br>မီးခံအုပ် ကွန်တိန်နာ (၁၀)ခု အပါအဝင်နှင့်<br>သစ်ခွဲစက်အဆောက်အဦး(၁၀၀' X ၄၀' ) | ၄၅၈၉၃၀၀ |
| ၃။ | ၁၂" အထူရှိ လိပ်သဲကျောက် အခြေခံ၍<br>အထူ ၉"အကျယ် ၁၈'ရှိသော ဘိလပ်မြေလမ်း | ၇၄၆၀၀၀ |
| ၄။ | ပူးတွဲပါစာရင်းအရ သစ် အခြေခံစက်ကရိယာ<br>စုစုပေါင်း ၁၄-ခု | ၂၀၀၀၀၀ |
| ၅။ | အထက်ဖော်ပြပါ အဆောက် အဦးများနှင့်<br>လမ်းကို လျှပ်စစ်မီးသွယ်တန်း ထားရှိမှု | ၁၄၃၀၀၀ |
| | ကျပ် ၁၁.၆၂၈ သန်း | ၁၁၆၂၈၀၀၀ |

နောက်ဆက်တွဲ (ဂ)

စတင်းဒက်ဖြန့်မှာ ကုမ္ပဏီလီမိတက်၏ သစ်အခြေခံ စက်ကရိယာများတန်ဘိုး

| စက်များ အကြောင်းအရာ | ဦးရေ | ကျပ် |
|---|---|---|
| 1. 4 Side planer (6 spindle ) model No 206 (Band new ) | 1 | 3000,000 |
| 2. Double Head spindle moulder model No. cmp - 522 (Band new ) | 1 | 400,000 |
| 3 Multiple Rip saw 12" wide model No .Sye - 101 (Reconditioned ). | 1 | 900,000 |
| 4. Straight line single Rip saw model No CW -460 (Band news 10H.P) | 1 | 1000,000 |
| 5. Single end tenoner (Reconditioned) model No TET 4 | 1 | 100,000 |
| 6. Double End Miter Saw with mounting Head. model No TDS 6 sat (Band new ) | 1 | 1500 ,000 |
| 7. Montiser model No.cm 1276 (Band New) | 1 | 126,900 |
| 8. Wide Belt Sander (Reconditioned ) Model No T1136 H | | 549,900 |
| | | 7576, 800 |

Kyat 75.77 lakh.

နောက်ဆက်တွဲ (ဂ) အဆက်

မြန်မာ့သစ်တောကျောင်း လုပ်ငန်း၏ တိုးချဲ့စက်ကရိယာနှင့် ကရိယာတန်ဆာပလာများစာရင်း

| | |
|---|---|
| 1. Chisel Mortiser (Wadkin) | 1 No |
| 2. Planing and Thicknessing (Wadkin ) | 1 No |
| 3. Automatic Circular Saw Sharpener ( Lorch ) | 1 No |
| 4. Surface Planing and Jointing Machine 9"(Barsgreen) | 1 No |
| 5. Surface Planing and Jointing Machine 16"(Barsgreen) | 1 No |
| 6. Circular Saw Bench with rise and fall saw (Wadkin ) | 1 No |
| 7. Circular Sawing Machine with 450 tilting table bade dia 42" max (Mitsui Kogyo ) | 1 No |
| 8. High Speed band saw (Wilson Bros ) | 1 No |
| 9. Wood turning Lathe | 1 No |
| 10. Disc Sander (Wadkin ) | 1 No |
| 11. Combined Chain and hollow Chisel (Wadkin) | 1 No |
| 12. Saw Grinding machine Sharpener | 1 No |
| 13. Band saw small 1/4 " to 1" | 1 No |
| 14. Toung and groove machine | 1 No |
| Total | 14 No |

မှတ်ချက်။ ။အထက်ဖော်ပြပါ စက်ကရိယာတန်ဆာပလာများသည် နှစ်(၃၀)အတွင်း လုပ်ငန်းဆောင်ရာတွင် အဓိကနှင့် သာမည ပြင်ဆင်ရန်အတွက် စက်ရေးရန်ပစ္စည်းများနှင့် ပြုပြင်ရန် ကရိယာတန်ဆာပလာများ လိုအပ်ပါသည်။

နောက်ဆက်တွဲ (၁၁)

## ဖက်စပ်လုပ်ငန်း၏ သစ်အခြေခံစက်မှုလုပ်ငန်းဖွဲ့ပုံဇယား



နောက်ဆက်တွဲ(င)

## နှစ်လည်ဝန်ထမ်းခန့်ထားမှု နှင့် လစာစရိတ်များ

ကျပ်

| အမှတ်စဉ် | ရာထူးအမည် | လစာနှုန်း | ပထမနှစ် | | ဒုတိယနှစ် | | တတိယနှစ် | |
|---|---|---|---|---|---|---|---|---|
| | | | ဝန်ထမ်းဦးရေ | လစာသင့်ငွေ | ဝန်ထမ်းဦးရေ | လစာသင့်ငွေ | ဝန်ထမ်းဦးရေ | လစာသင့်ငွေ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၁ | အထွေထွေမန်နေဂျာ | ၃၀၀၀၀ | ၁ | ၃၀၀၀၀ | ၁ | ၃၀၀၀၀ | ၁ | ၃၀၀၀၀ |
| ၂ | မန်နေဂျာ | ၂၀၀၀၀ | ၄ | ၈၀၀၀၀ | ၄ | ၈၀၀၀၀ | ၄ | ၈၀၀၀၀ |
| ၃ | လက်ထောက်မန်နေဂျာ | ၁၅၀၀၀ | ၁ | ၁၅၀၀၀ | ၂ | ၃၀၀၀၀ | ၂ | ၃၀၀၀၀ |
| ၄ | ဖိုမင်/ကြီးကြပ်ရေးမှူး | ၁၂၀၀၀ | ၄ | ၄၈၀၀၀ | ၅ | ၆၀၀၀၀ | ၅ | ၆၀၀၀၀ |
| ၅ | စက်မောင်း/ဒုကြီးကြပ်ရေးမှူး | ၇၅၀၀ | ၆ | ၄၅၀၀၀ | ၈ | ၆၀၀၀၀ | ၁၄ | ၁၀၅၀၀၀ |
| ၆ | ကျွမ်းကျင် | ၆၀၀၀ | ၂၀ | ၁၂၀၀၀၀ | ၂၅ | ၁၅၀၀၀၀ | ၃၀ | ၁၈၀၀၀၀ |
| ၇ | အလုပ်သမား | ၃၀၀၀ | ၃၀ | ၉၀၀၀၀ | ၄၀ | ၁၂၀၀၀၀ | ၅၀ | ၁၅၀၀၀၀ |
| | | စုစုပေါင်း | ၆၆ | ၄၂၈၀၀၀ | ၈၅ | ၅၃၀၀၀၀ | ၁၀၆ | ၆၃၅၀၀၀ |
| | တစ်နှစ်လစာစရိတ် | | | ၅၁၃၆၀၀၀ | | ၆၃၆၀၀၀၀ | | ၇၆၂၀၀၀၀ |

နောက်ဆက်တွဲ(စ)

## ငှားရမ်းခြင်းသဘောတူကတိစာချုပ်

ဤသဘောတူကတိစာချုပ်ကို (   )ရက်နေ့(   )လ(   )ခုနှစ်တွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့သင်္ဘောကျင်းလုပ်ငန်း (နောင်တွင် အငှားချထားသူဟုခေါ်တွင်စေရမည်။ ယင်းစကားရပ်တွင် အဓိပ္ပါယ်ကွဲလွဲချက်မရှိခဲ့လျှင် ဥပဒေအရဆက်ခံသူများနှင့် တရားဝင်လွှဲအပ်ခြင်းခံရသူများ၊ တရားဝင်ကိုယ်စားလှယ်များလည်းပါဝင်ပါသည်။) ထိုအဖွဲ့အစည်းကို ကိုယ်စားပြုသူက တစ်ဖက်နှင့် မြန်မာနိုင်ငံတော်တွင် ဖွဲ့စည်းတည်ထောင်သော အမ်အက်စ်ပု(ဒ်)ဇေါ(ခ်)ကုမ္ပဏီလီမိတက် ဖက်စပ်ကုမ္ပဏီ (နောင်တွင် အငှားချထားခြင်းခံရသူဟုခေါ်တွင်စေရမည်။ အဆိုပါစကားရပ်တွင် ဥပဒေအရဆက်ခံသူများနှင့် တရားဝင်လွှဲအပ်ခြင်းခံရသူများ၊ တရားဝင်ကိုယ်စားလှယ်များလည်း ပါဝင်ပါသည်။)၏ ကိုယ်စားပြုသူ တစ်ဖက်တို့က ချုပ်ဆိုကြသည်မှာ-

ဤစာချုပ်အရ ငှားရမ်းခွင့်ရရှိသူသည် မြန်မာ့သင်္ဘောကျင်းလုပ်ငန်းနှင့် ဖက်စပ်လုပ်ငန်းတည်ထောင်၍ သင်္ဘောပစ္စည်းထုတ်လုပ်သည့် လုပ်ငန်းစက်ကိရိယာများကို သုံးစွဲခြင်းဖြင့် တန်ဖိုးမြင့်သင်္ဘောပစ္စည်းများထုတ်လုပ်ရန် စီစဉ်ထားသည်။ ငှားရမ်းခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ကို ရယူရန်လိုအပ်ပါသည်။ ငှားလိုသော မြေ၏တည်ရှိချက်နှင့် ဧရိယာကို နောက်ဆက်တွဲ(က)တွင် ပူးတွဲတင်ပြ ထားပါသည်။

ဤစာချုပ်အရ အငှားချထားသူသည် မြေကိုတရားဝင်ပိုင်ဆိုင်သူဖြစ်ပြီး တရားဝင်ငှားရမ်းခြင်း၊ အကျိုးအမြတ်ခံစားဆောင်ရွက်ခြင်း နှင့် စီမံခန့်ခွဲမှု အခွင့်အရေးရှိသူ ဖြစ်ကြောင်းဝန်ခံပါသည်။

ဤစာချုပ်ဖြင့် ငှားရမ်းသည့် မြေကွက်အတွက် သက်သေခံသည်မှာ-

၁။ အငှားချထားခြင်းခံရသူသည် ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ဆင်မလိုက်ရပ်ကွက် မြန်မာ့သင်္ဘောကျင်းလုပ်ငန်းပိုင် မြေပေါ်ရှိ မြေ၏အစိတ်အပိုင်းဖြစ်သည့် နောက်ဆက်တွဲ(က)တွင် ဖော်ပြထားသော (၂.၂၅)ဧကရှိ မြေကွက်ကို ကုန်ချောပစ္စည်းထုတ်လုပ်သည့် စက်ရုံတည်ထောင်ဆောင်ရွက်ရန်အတွက် အငှားချထားခြင်းခံရသူကိုကနဦး(၁၅)နှစ် ငှားရမ်းရန်သဘောတူညီ ကြပါသည်။ အဆိုပါမြေနှင့် စပ်လျဉ်း၍ မြေအောက်ရှိ သတ္တုပစ္စည်း၊ ကျောက်မီးသွေး၊ ရေနံနှင့် အခြားသဘာဝ သယံဇာတပစ္စည်းများနှင့် မြှုပ်နှံထားသော ရတနာများသည် အငှားချထားသူ နှင့်သာ သက်ဆိုင်မှုရှိစေရမည်။

၂။ (၁၅)နှစ် ငှားရမ်းခြင်း ပြီးစီးပြီးနောက် ဖက်စပ်ကုမ္ပဏီက ငှားရမ်းခြင်းကာလကို တိုးမြှင့်လို လျှင် နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ နောက်ထပ်(၅)နှစ်သက်တမ်းတိုးမြှင့်ခွင့်ရှိသည်။ ထိုသို့ သက်တမ်းတိုးမြှင့်လိုလျှင် (၁၅)နှစ် မတိုင်မီ (၃)နှစ် (သုံးနှစ်)ကြိုတင်၍ စာဖြင့် အကြောင်း ကြားရမည်။ အသစ်ငှားရမ်းခြင်းကာလအတွက် ပရိညာဉ်အသစ်ကို ပြန်လည်ချုပ်ဆို၍ ငှားရမ်းခ အသစ် နှုန်းဖြင့် ပြင်ဆင်ညှိနှိုင်းရမည်။

လျှင် အငှားချထားခြင်းခံရသူသည် စည်းကမ်းချက်ဖောက်ဖျက်၍ စည်းကမ်းပျက်ကွက်သူဟု ယူဆသည်။

၇။ ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ အကြောင်းတစ်စုံတစ်ရာ ပေါ်ပေါက်ပါက စာချုပ်ဝင်တစ်ဖက်ဖက်မှ အခြားတစ်ဖက်သို့ ရက်ပေါင်း(၃၀)အတွင်းစာဖြင့် တရားဝင် အကြောင်းကြား ရမည်။

၈။ ဤငှားရမ်းခြင်း သဘောတူစာချုပ်သည် ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့သဘောင်္ကျင်း လုပ်ငန်းနှင့် စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်တို့ သဘောတူချုပ်ဆိုသည့် ( )နေ့စွဲပါ ဖက်စပ်လုပ်ငန်း ပဋိညာဉ်စာချုပ်၏ အကျုံးဝင်ပူးတွဲပါ အစိတ်အပိုင်းဖြစ်သည်ဟု မှတ်ယူ ရမည်။

အထက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူ လက်ခံပါသဖြင့် အောက်ပါ အသိသက်သေလူကြီးမင်းများ၏ ရှေ့မှောက်တွင် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ ကိုယ်တိုင်လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

မြန်မာ့သဘောင်္ကျင်းလုပ်ငန်း
ကိုယ်စား

အမ်အက်စ် ၄(ဒ်)ဝါ(ခ်) ကုမ္ပဏီလီမိတက်
ကိုယ်စား

ဦးပါစီမောင်မောင်
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့သဘောင်္ကျင်းလုပ်ငန်း
နေ့စွဲ

ဦးဘိုကျော်
ဦးဆောင်ညွှန်ကြားရေးမှူး
အမ်အက်စ် ၄(ဒ်)ဝါ(ခ်) ကုမ္ပဏီလီမိတက်
နေ့စွဲ

သက်သေရှေ့တွင်

သက်သေရှေ့တွင်

ဦးတင်မောင်ညွန့်
အထွေထွေမန်နေဂျာ(စက်မှုစီမံ)
မြန်မာ့သဘောင်္ကျင်းလုပ်ငန်း

ဦးသိန်းထွန်း
ဥက္ကဋ္ဌ
အမ်အက်စ် ၄(ဒ်)ဝါ(ခ်) ကုမ္ပဏီလီမိတက်

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပထမဇယား ပုံစံ-က တွင်ပါရှိသော စည်းမျဉ်းများသည် ဤစည်းမျဉ်း ဥပဒေများ၌ အတိအလင်း ထည့်သွင်းထားသည့်အခါ သို့မဟုတ် အကြုံးဝင်စေရမည်ဟု ယူဆရ မည့် ပြဋ္ဌာန်းချက်မှတစ်ပါး၊ ဤကုမ္ပဏီနှင့် မသက်ဆိုင်စေရ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၇ ပုဒ်မခွဲ (၂) တွင် မလိုက်နာမနေရဟု သတ်မှတ်ထားသည့် စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အမြဲတမ်း သက်ဆိုင်စေရမည်။ ဤစည်းမျဉ်းများသည် အထူးကုမ္ပဏီ အက်ဥပဒေနှင့် အခြား တည်ဆဲဥပဒေများအား ထိပါးခြင်း မရှိစေသည်နှင့် အမျှ အကျိုးသက်ရောက်စေရမည်။

## အစုရှယ်ယာများ

၂။ ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်း၌ ဤကိစ္စအလို့ငှာ သတ်မှတ်ချက်များ(ရှိလျှင်)ကို မဆန့်ကျင်စေပဲ ထို့အပြင် ဤကုမ္ပဏီ၌ရှိနေသော အစုရှယ်ယာမည်သူမဆိုကို လက်ဝယ်ရှိသူများ၏ ယခင်ရရှိထားသော အထူးရပိုင် ခွင့်များကို မထိပါးစေဘဲ၊ ကုမ္ပဏီ၏ မည်သည့် အစုရှယ်ယာများကိုမဆို ဦးစားပေး၊ ဆိုင်းငံ့ပေး၊ အခြား အထူးရပိုင်ခွင့်များ သို့မဟုတ် အခြား ကန့်သတ်ချက်များဖြစ်သောအမြတ်ပေးခြင်း၊ မဲပေးခြင်း၊ အစုငွေရင်းပြန်ပေးခြင်းနှင့် အခြားကိစ္စစသည့်များကို ဤကုမ္ပဏီက အခါအားလျော်စွာ အထူးဆုံးဖြတ်ချက်များဖြင့် ကုမ္ပဏီက သတ်မှတ်သည့်အတိုင်းထုတ်ပေးနိုင်သည်။

၃။ အကယ်၍မည်သည့်အခါတွင်မဆို အစုရှယ်ယာမတည်ငွေရင်းကို အစုရှယ်ယာအမျိုးအစား အသီးသီးခွဲခြားထားသော်လည်း (ထိုအမျိုးအစား အစုရှယ်ယာများ ထုတ်သည့်စည်းကမ်းချက်များက အခြားနည်းစီစဉ်ထားခြင်းမှတစ်ပါး) မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၆၆-က ပါ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေပဲ ထုတ်ထားသော အဆိုပါအမျိုးအစား အစုရှယ်ယာများ၏ သုံးပုံတစ်ပုံ လက်ဝယ်ရှိသူများ၏ စာဖြင့်ရေးသား သဘောတူညီချက်ဖြင့်ဖြစ်စေ၊ ထိုအမျိုးအစားအစုရှယ်ယာများကို လက်ဝယ်ရှိသူများ၏ သီးခြားအထွေထွေ အစည်းအဝေး၌ ချမှတ်သော အထူးဆုံးဖြတ်ချက်၏ ခွင့်ပြုချက်ဖြင့် ဖြစ်စေ ပြောင်းလဲနိုင်သည်။ အဆိုပါသီးခြား အထွေထွေအစည်းအဝေးတိုင်းတွင် အထွေထွေ အစည်းအဝေးများ ပြုလုပ်ခြင်းနှင့် စပ်ဆိုင်သော ဤစည်းမျဉ်းများကို သင့်လျော်သလို အသုံးပြုရမည်။ သို့ရာတွင် အစည်းအဝေး ထမြောက်စေရန်အတွက် ထုတ်ပေးထားသည့် အစုရှယ်ယာ အမျိုးအစား ပိုင်ဆိုင်သူ အနည်းဆုံးနှစ်ဦး သို့မဟုတ်သုံးပုံတစ်ပုံသည် ကိုယ်တိုင်ဖြစ်စေ ကိုယ်စားလှယ်အဖြစ်ဖြစ်စေ တက်ရောက်ရမည်။

၄။ မည်သည့်အစုရှယ်ယာကိုမျှ အများပြည်သူတို့ ပါဝင်ရန်အတွက် ကမ်းလှမ်းခြင်းမပြုလုပ်ရ။ အစုရှယ်ယာလျှောက်ထားချိန်၌ပေးသွင်းရန် အနည်းဆုံးလိုအပ်သည့် ငွေပမာဏမှာ အစုရှယ်ယာ အပေါ်သတ်မှတ်ထားသည့် တန်ဖိုးရင်းအနည်းဆုံး ၁၀ ရာခိုင်နှုန်း (တစ်ဆယ် ရာခိုင်နှုန်း) ဖြစ်ရမည်။ ထို့အပြင် ဒါရိုက်တာများက အစုရှယ်ယာများကို ခွဲဝေသတ်မှတ်ရာ၌ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၀၁ နှင့် ၁၀၄ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရမည် အများနှင့် မသက်ဆိုင်သော ကုမ္ပဏီသည် ပုဒ်မ ၁၀၁၊ ပုဒ်မခွဲ (ရ) နှင့် သက်ဆိုင်ခြင်း မရှိစေရ။ အစုရှယ်ယာများကို ဦးစားပေးခွဲဝေသတ်မှတ်ရာ၌ လည်းကောင်း ထုတ်ပေးရာ၌ လည်းကောင်း၊ အစုရှယ်ယာများ အပေါ်သတ်မှတ်ထားသည့် တန်ဖိုးရင်း၏ တစ်ဆယ်ရာခိုင် နှုန်းထက် မပိုစေရ။ ထိုသို့အစုရှယ်ယာ

ခွဲဝေသတ်မှတ်ထုတ်ခြင်းအပေါ် အစုရှယ်ယာများ ထုတ်ပေးသည့် အကြောင်းကြားစာကို လက်ခံရရှိသည့်နေ့မှ ရက်ပေါင်း(သုံးဆယ်) အတွင်း ငွေပေးသွင်းရမည်။

၅။ အဖွဲ့ဝင်မှတ်ပုံတင်စာရင်း၌ အမည်ပါရှိသူတိုင်းသည် ယင်းသူလက်ဝယ်၌ရှိသော အစုရှယ်ယာ သို့မဟုတ် အစုရှယ်ယာများကို ထိုအစုရှယ်ယာများအပေါ် ပေးသွင်းပြီးဖြစ်သည့်ငွေပမာဏအား ဖော်ပြထားသည့်ကုမ္ပဏီ၏ တံဆိပ်ရိုက်နှိပ်ထားသော သက်သေခံလက်မှတ်တစ်စောင်ကို အခမဲ့ ရပိုင်ခွင့်ရှိစေရမည်။ အစုရှယ်ယာတစ်ခု သို့မဟုတ် အစုရှယ်ယာများကို ပူးတွဲပိုင်ဆိုင်သူများအား လက်မှတ်တစ်စောင်ထက်ပို၍ ကုမ္ပဏီက ထုတ်ပေးခွင့် မရှိစေရ။ ယင်းအပြင်ပူးတွဲပိုင်ဆိုင်သူများအနက် တစ်ဦးဦးအား သက်သေခံလက်မှတ်တစ်စောင် ထုတ်ပေးခြင်းသည် ကျန်အားလုံးကိုပါ ထုတ်ပေးခြင်း ဖြစ်သည်ဟု မှတ်ယူရမည်။

၆။ အစုရှယ်ယာ လက်မှတ်တစ်စောင်သည် ပုံသဏ္ဌာန်ပျက်လျှင်၊ ပျောက်ဆုံးလျှင် သို့မဟုတ် ပျက်စီးခဲ့လျှင် သက်ရှသအထောက် အထားများနှင့် လျော်ကြေးခံဝန်ချုပ်တို့နှင့် စပ်လျဉ်း၍ ဒါရိုက်တာများက သင့်လျော်သည်ဟုထင်သော မည်သည့် စည်းမျဉ်းများ(ရှိလျှင်)ဖြင့် ငွေကျပ်ငါးဆယ်ထက်မပိုသော ဒဏ်ကြေးကို ပေးဆောင်လျှင် အစုရှယ်ယာ သက် သေခံလက်မှတ် အသစ်လဲလှယ်ထုတ်ပေးနိုင်သည်။

၇။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ ပုဒ်မ ၅၄(က)တွင် ခွင့်ပြုထားသော အတိုင်းအတာအထိမှ လွဲ၍ ကုမ္ပဏီ၏ရန်ပုံငွေ အချို့အဝက်ကို အသုံးပြု၍ ကုမ္ပဏီ၏ အစုရှယ်ယာများဝယ်ယူ ရန်သော်လည်းကောင်း အာမခံထား၍ ငွေချေးခြင်းကိုသော်လည်းကောင်း မပြုလုပ်ရ။

## တရားဝင်သိမ်းယူထားပိုင်ခွင့်

၈။ ကုမ္ပဏီသည်(ငွေအပြည့်ပေးပြီး အစုရှယ်ယာမဟုတ်သော) အစုရှယ်ယာ အသီးသီးအပေါ် ယင်းအစုရှယ်ယာနှင့် စပ်လျဉ်း၍တောင်းဆိုသည့် သို့မဟုတ် သတ်မှတ်သည့် အချိန်တွင် ပေးရန်ရှိသည့် ငွေအားလုံးအတွက် (လတ်တလော ပေးရမည်ဖြစ်စေ မပေးရမည်ဖြစ်စေ) တရားဝင် သိမ်းထားပိုင်ခွင့်ရှိရမည်။ ယင်းပြင် ကုမ္ပဏီသည် မှတ်ပုံတင်ထားသည့်အမည်ပေါက် အစုရှင်၏ (အပြည့်ပေးပြီး အစုရှယ်ယာများအပြင်) အစုရှယ်ယာများအပေါ် ယင်းစဉ်က သို့မဟုတ် ယင်းသူ၏ အမွေပုံဝန္ထည်းမှ ကုမ္ပဏီသို့ပေးရန်ရှိသော ငွေများအားလုံးအတွက် တရားဝင် သိမ်းယူထားခွင့်ရှိရမည်။ သို့ရာတွင် ဤအပိုဒ်ပါ သတ်မှတ်ချက်များသည် အစုရှယ်ယာ အားလုံးအပေါ်တွင် သော်လည်းကောင်း အချို့အဝက်ပေါ်တွင် သော်လည်းကောင်း ဒါရိုက်တာများ အနေဖြင့်မည်သည့် အချိန်တွင်မဆို ကင်းလွတ်ခွင့်ပြုကြောင်း ကြေညာနိုင်သည်။ ကုမ္ပဏီ၏တရားဝင် သိမ်းယူထားခွင့်ရှိခြင်းသည် အစုရှယ်ယာအပေါ် ပေးရန်ရှိသော အမြတ်ဝေစုများနှင့်လည်း သက်ဆိုင်သည်။

၉။ ဤကုမ္ပဏီသည် တရားဝင် သိမ်းယူထားပိုင်ခွင့်ရှိသည့် အစုရှယ်ယာ တစ်ခုခုကို ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းနှင့်အညီ ရောင်းချနိုင်သည်။ သို့ရာတွင် တရားဝင်

သိမ်းယူထား ပိုင်ခွင့်ရှိသည့်ငွေကို လက်တလောပေးရန် မဟုတ်လျှင် သော်လည်းကောင်း၊ အစုရှယ်ယာ လက်ဝယ် ထားရှိ သူထံသို့ အကြောင်းကြားစာဖြင့် အစုရှယ်ယာကို ရောင်းချမည်ဖြစ်ကြောင်း စာဖြင့် ရေးသားဖော်ပြလျက် ပေးရန်ရှိသော ငွေကို တောင်းဆိုရာတွင် အကြောင်းကြားစာ ပေးသည့်နေ့မှ တစ်ဆယ့်လေးရက် ကျော်လွန် ကုန်ဆုံးသည့်အထိ မှတ်ပုံတင်ထားသည့် လက်ဝယ်ထားရှိသူ၊ သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသူက ပျက်ကွက်ခြင်း မရှိလျှင် သော်လည်းကောင်း ထိုအခြေအနေများမှလွဲ၍ မည်သည့်ရောင်းချခြင်းကိုမျှ မပြုရ။

၁၀။ ထိုသို့ရောင်းချရမည့် ငွေများကို လက်တလော ပေးရန်ဖြစ်သော ကုမ္ပဏီ သိမ်းယူထားပိုင်ခွင့်ရှိသည့် ငွေအရေအတွက်၏ အချို့အဝက်အတွက် သုံးရမည်။ ထို့အပြင် ကျန်ရှိသောငွေကို (ရောင်းချခြင်း မပြုမီက အစုရှယ်ယာ များအပေါ်တင်ရှိသော လက်တလောပေးရန် မဟုတ်သည့် ငွေအတွက် အလားတူ ပိုင်ဆိုင်ခွင့် ထားရှိသည်ကို ထောက်ထားလျက်) ရောင်းချသည့်နေ့တွင် အစုရှယ်ယာများကို ပိုင်ဆိုင်ခွင့်ရှိသူအားပေးရမည်။ ဝယ်သူအားအစုရှယ်ယာများကို ပိုင်ဆိုင်သူနေဖြင့် မှတ်ပုံတင်ထားရမည်။ ထို့အပြင် ထိုသူသည် ဝယ်ယူသော ငွေသုံးစွဲပုံကို ကြည့်ရှုရန်မလိုအပ်စေရ၊ ထိုအပြင် ထိုသူ၏ အစုရှယ်ယာများပိုင်ဆိုင်ခွင့်ကို ရောင်းချရာ၌ နည်းလမ်းမကျမှု သို့မဟုတ် တရားမဝင်မှု တစ်ခုခုကြောင့် ပိုင်ဆိုင်မှုကို မထိခိုက်စေရ။

## အစုရှယ်ယာများအတွက်ငွေတောင်းဆိုခြင်း

၁၁။ ဒါရိုက်တာများအနေဖြင့် ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးရသေးသော မည်သည့်ငွေများ ကိုမဆို အခါအားလျော်စွာတောင်းဆိုနိုင်သည်၊ သို့ရာတွင်ငွေပေးရန် တောင်းဆိုခြင်းအားလုံးသည် အစုရှယ်ယာ အပေါ်သတ်မှတ်ထားသည့် တန်ဖိုးရင်း၏ လေးပုံတစ်ပုံထက်မကျော်စေရ၊ သို့မဟုတ် နောက်ဆုံးတောင်းဆို သည့် အချိန်မှ အနည်းဆုံး တစ်လ ထက်မနည်းသော အချိန်တွင် မပေးစေရ၊ ထို့အပြင် အစုရှယ်ယာဝင် အသီးသီးသည် (အနည်းဆုံး တစ်ဆယ်လေးရက် ကြိုပေးသည့် အကြောင်းကြားစာကို လက်ခံရရှိသည့် အခါမှသာ) ပေးရန် သတ်မှတ်သည့် အချိန် သို့မဟုတ် အချိန်များတွင် သူ၏ အစုရှယ်ယာများအပေါ် ဖော်ပြတောင်းဆိုသည့် ငွေများကို ကုမ္ပဏီသို့ပေးရမည်။

၁၂။ အစုရှယ်ယာတစ်စုကို ပူးတွဲပိုင်ဆိုင်သူများသည် အစုရှယ်ယာနှင့် စပ်လျဉ်းသည့် တောင်းဆိုခြင်း အားလုံးကို တစ်ဦးချင်းအနေဖြင့် သော်လည်းကောင်း ပူးတွဲ၍သော်လည်းကောင်းပေးရန် တာဝန်ရှိသည်။

၁၃။ အကယ်၍ အစုရှယ်ယာတစ်စုအတွက်တောင်းဆိုသည့်ငွေကို သတ်မှတ်နေ့ သို့မဟုတ် ထိုနေ့မတိုင်မီ ပေးသွင်းခြင်းမပြုပါက အဆိုပါ ငွေပေးရန်ရှိသူသည် သတ်မှတ်သည့်နေ့မှလာရောက်ပေးသည့်နေ့ထိ တစ်နှစ်လျှင် ငါးရာခိုင်နှုန်း အတိုးပေးရမည်။ သို့ရာတွင် ထိုအတိုးအားလုံးသော်လည်းကောင်း တစ်စိတ်တဒေသသော် လည်းကောင်း ပေးခြင်းမှ ကင်းလွတ်ခွင့် ပြုရန် ဒါရိုက်တာများ၌ အခွင့် အာဏာရှိသည်။

၁၄။ အတိုးပေးသည့် ကိစ္စနှင့် စပ်လျဉ်း၍ ဤစည်းမျဉ်းများ၏ သတ်မှတ်ချက်များသည် အစုရှယ်ယာတစ်ခု ထုတ်ပေးရာတွင် သတ်မှတ်ထားရှိသည့် စည်းကမ်းချက်များအရ သတ်မှတ်ထားသော အချိန်တွင် ပေးရန်ရှိသော ငွေကိုမပေးသည့် ကိစ္စနှင့် သက်ဆိုင်စေရမည်။ ထိုငွေသည် အစုရှယ်ယာ တန်ဖိုးအလွက် ဖြစ်စေ၊ အစုရှယ်ယာ ၏ သတ်မှတ်တန်ဖိုးထက် ပိုသောငွေကို ဖြစ်စေ အသိပေး၍ နည်းလမ်းတကျ တောင်းဆိုသည့်အခါ ပေးရန်ရှိ သော ငွေကဲ့သို့ အလားတူဖြစ်စေရမည်။

၁၅။ အစုရှယ်ယာ လက်ဝယ်ရှိသူများအကြား ဒါရိုက်တာများသည် ပေးရန်တောင်းဆိုသည့် ငွေပမာဏနှင့် ပေးရန်အချိန် ခြားနားမှုများအတွက် အစုရှယ်ယာ ထုတ်ပေးမှုအပေါ် အစီစဉ်များပြုလုပ်နိုင်ခွင့် ရှိစေရမည်။

## အစုရှယ်ယာများ လွှဲပြောင်းခြင်းနှင့် အမွေခံခြင်း

၁၆။ အစုရှယ်ယာ လွှဲပြောင်းသည့် စာချုပ်ကို လွှဲပြောင်းသူနှင့် လွှဲပြောင်းခံရသူ နှစ်ဦးနှစ်ဖက် လက်မှတ် ရေးထိုး အတည်ပြုရမည်၊ ထိုအစုရှယ်ယာနှင့် စပ်လျဉ်း၍ လွှဲပြောင်းခြင်းခံရသူ၏ အမည်ကို အစုရှယ်ယာ ဝင်များမှတ်ပုံတင်စာရင်းတွင် ရေးသွင်းခြင်းမပြုမီ၊ ထိုအစုရှယ်ယာကို လွှဲပြောင်းသူ ပိုင်ဆိုင်လျက်ရှိရသည်ဟု မှတ်ယူရမည်။

၁၇။ ဤကုမ္ပဏီ၏ အစုရှယ်ယာများကို အောက်ပါပုံစံအတိုင်း သော်လည်းကောင်း ဒါရိုက်တာများက အတည်ပြုသော သုံးစွဲမြဲ ရိုးရိုးပုံစံဖြင့်သော်လည်းကောင်း လွှဲပြောင်းရမည်။

------------------------ နေ၊ ကျွန်ုပ်၊ က၊ ခ အား ------------------------ နေ ဂ၊ ဃ (နောင်တွင်လွှဲပြောင်းခံရသူဟုခေါ်တွင်မည်) က ငွေကျပ် ------------------------ ပေးချေသည် ဖြစ်၍ ဤစာချုပ်ကို ချုပ်ဆိုသည့် အချိန်တွင် အစုရှယ်ယာများကို ကျွန်ုပ် လက်ဝယ်ထားရှိခဲ့ရာ၌ သတ်မှတ်ထားသည့် စည်းကမ်းချက်များကို မဆန့်ကျင်စေဘဲ လွှဲပြောင်း ခံရသူမှစ၍၊ ထိုသူ၏ သေတမ်းစာအရ စီရင်ပိုင်ခွင့် ရှိသူ များ၊ အမွေထိန်းများ၊ လွှဲအပ်ခံရသူများ လက်ဝယ်ထားရှိကြစေရန် **အမ်အက်စ်ဂု(ဒ်)ဝါ(ခ်) ကုမ္ပဏီလီမိတက်** ဟုခေါ်သော လုပ်ငန်းတွင် ဂဏန်းအမှတ်အသားများ ဖော်ပြထားသည့် အစုရှယ်ယာများကို ထိုလွှဲပြောင်းခံရသူ ------------ သို့ လွှဲပြောင်းကြောင်း၊ ကျွန်ုပ်လွှဲပြောင်းခံရသူကလည်း ဆိုခဲ့သည့် စည်းကမ်း ချက်များကို အကောက်အထားပြု၍ ထိုအစုရှယ်ယာများကို လွှဲပြောင်းရယူရန် သဘောတူကြောင်း၊ သက်သေပြုသောအားဖြင့် ------------ ခုနှစ်၊ ------------ လ၊ ------------ ရက်နေ့တွင် လက်မှတ် ရေးထိုးကြပါသည်။ သက်သေများအဖြစ် ------------ နေ့၊ ------------ လ ------------ ရက်တွင် လက်မှတ် ရေးထိုးကြပါသည်။

သက်သေများ၏ လက်မှတ်များ၊

၁၈။ ဒါရိုက်တာများသည် ၎င်းတို့က သဘောတူလက်ခံခြင်း မပြုသည့်သူ တစ်ဦးအား အစုရှယ်ယာများ မည်သည့်လွှဲပြောင်းခြင်းအပေါ် မှတ်ပုံတင်ပေးရန် ငြင်းပယ်နိုင်သည်။ ထို့ပြင် ကုမ္ပဏီက တရားဝင်

သိမ်းယူ ထားပိုင်ခွင့်ရှိသော မည်သည့် အစုရှယ်ယာများကို လွှဲပြောင်းခြင်းအပေါ် မှတ်ပုံတင်ပေးရန်ကိုလည်း ငြင်းပယ် နိုင်သည်။ နှစ်စဉ် ပြုလုပ်သော သာမန် အထွေထွေ စည်းအဝေးမတိုင်မီ တစ်ဆယ့်လေးရက်အတွင်း လွှဲပြောင်းခြင်းနှင့် စပ်လျဉ်း၍ မှတ်ပုံတင်ခွင့်ကိုလည်း ဒါရိုက်တာများ အနေဖြင့် ဆိုင်းငံ့ထားနိုင်သည်။ ဒါရိုက်တာ များသည် လွှဲပြောင်းခြင်း စာချုပ်တခုခုကို အောက်ပါကိစ္စများတွင် အသိအမှတ်ပြုရန် ငြင်းပယ်နိုင်သည် -

(က) လွှဲပြောင်းခြင်း ကိစ္စနှင့် စပ်လျဉ်း၍ ကုမ္ပဏီသို့ ငွေကျပ် ၂၀ထက် မပိုသော အခကြေးငွေကို မပေးလျှင်၊

(ခ) လွှဲပြောင်းခြင်း စာချုပ်နှင့်အတူ သက်ဆိုင်သော အစုရှယ်ယာ လက်မှတ်များ ပူးတွဲမပေးအပ်လျှင်၊ ထို့အပြင် လွှဲပြောင်းခြင်းပြုလုပ်ရန် လွှဲပြောင်းသူ၏လုပ်ပိုင်ခွင့် နှင့် ပတ်သက်၍ အကြောင်းအားလျော်စွာ ဒါရိုက်တာများ ကလိုအပ်သော အခြား သက်သေခံချက်ကို မတင်ပြ နိုင်လျှင်။

အကယ်၍ ဒါရိုက်တာများသည် မည်သည့် အစုရှယ်ယာများကို မဆိုလွှဲပြောင်းခြင်းအတွက် မှတ်ပုံတင်ပေးရန် ငြင်းပယ်လျှင် ကုမ္ပဏီ သို့ လွှဲပြောင်းပေးရန် တင်သွင်းသည့် နေ့ရက်မှ နှစ်လအတွင်း လွှဲပြောင်းခြင်းခံ ရသူနှင့် လွှဲပြောင်းသူတို့ထံ ငြင်းပယ်ကြောင်း အကြောင်း ကြားစာကိုပေးပို့ရမည်။

၁၉။ မှတ်ပုံတင် အစုရှယ်ယာ ဝင်သည်သာလျှင် ထိုအစုရှယ်ယာ အတွက် ပိုင်ဆိုင်ခွင့် ရှိသူဖြစ်သည်ဟု ကုမ္ပဏီက အသိအမှတ် ပြုရမည်။

၂၀။ ဒါရိုက်တာများက အခါအားလျော်စွာ အလိုရှိသော အထောက်အထားများကို တင်ပြခြင်းဖြင့် အစုရှယ်ယာ တခုကို ပိုင်ဆိုင်ခွင့်ရလာသူ တစ်ဦးသည် အဆိုပါ အစုရှယ်ယာနှင့် စပ်လျဉ်း၍ အစုရှယ်ယာဝင် တစ်ဦး အဖြစ် မှတ်ပုံတင်ရန်အခွင့်အရေး ရရှိရမည်။

၂၁။ အစုရှယ်ယာ တစ်ခုအပေါ် ပိုင်ဆိုင်ခွင့်ရရှိလာသူသည် မိမိ၏အစုရှယ်ယာ လက်ရှိထားသူအဖြစ် မှတ်ပုံတင်ပြီး ဖြစ်ပါက မိမိရပိုင်ခွင့်ရှိသည့် အလားတူ အမြတ်ဝေစုများနှင့် အခြား အကျိုးခံစားခွင့်များကို ရရှိခွင့်ရှိရမည်။ သို့သော် အစုရှယ်ယာနှင့်စပ်လျဉ်း၍ အစုရှယ်ယာဝင် အဖြစ် မှတ်ပုံတင်ခြင်း မပြုလုပ်ရသေးမီ ကုမ္ပဏီ၏ အစည်းအဝေးများတွင် အစုရှယ်ယာဝင်အား ပေးအပ်သည့် ရပိုင်ခွင့်ကို ထိုသူအနေဖြင့် ရရှိခွင့်မရှိစေရ။

## အစုရှယ်ယာများကို သိမ်းယူခြင်း

၂၂။ အစုရှယ်ယာဝင် တစ်ဦးသည် အစုရှယ်ယာအတွက် မည်သည့်တောင်းဆိုသည့်ငွေကို၊ ဖြစ်စေ တောင်းခေါ်သည့်ငွေ၏ အရစ်ကျကိုဖြစ်စေ ပေးရန်ချိန်းဆိုသည့်နေ့တွင် ပေးရန်ပျက်ကွက်လျှင် ထိုသို့ ပျက်ကွက် ပြီးနောက် ဒါရိုက်တာများသည် မပေးရသေးသော ငွေအစိတ်အပိုင်းကိုသော်လည်းကောင်း၊ အရစ်ကျပေးရသည့် ငွေကိုသော်လည်းကောင်း ပေးသွင်းခြင်းမပြုမီ ကာလအတွင်း မည့်သည့်အချိန်၌

မဆို ထိုသို့ မပေးသွင်းရသေးသော တောင်းဆိုငွေ သို့မဟုတ် အရစ်ကျငွေနှင့် တကွ ထိုငွေများအပေါ် ကျသင့်သော အတိုးငွေကိုပါ ပေးဆပ်ရန် ဆင့်ဆိုသော အကြောင်းကြားစာကို ထိုသူထံပေးပို့နိုင်သည်။

၂၃။ အကြောင်းကြားစာတွင် အကြောင်းကြားစာ၌ ပေးရမည်ဟု ဖော်ပြထားသည့်ရက် သို့မဟုတ် ထိုရက် မတိုင်မီနောက်ထပ် ရက်တစ်ရက်ကို ဖော်ပြရမည်ဖြစ်သည်။ ထိုရက်သည် အကြောင်းကြားစာ၌ တပ်ထားသည့် နေ့စွဲမှ တစ်ဆယ့်လေးရက် မကုန်ဆုံးမီရက်ထက်မစောစေရ။ အကယ်၍ ချိန်းဆိုသည့် သို့မဟုတ် ထိုအချိန် မတိုင်မီ ပေးရန်ပျက်ကွက်ပါက အစုရှယ်ယာကို သိမ်းယူခြင်း ခံရမည်ဟုလည်းဖော်ပြရမည်။

၂၄။ အကယ်၍ ထိုအကြောင်းကြားစာပါ လိုအပ်ချက်များကို လိုက်နာခြင်းမပြုလျှင် အကြောင်းကြားစာ ပေးပို့သော အစုရှယ်ယာများကို လိုက်နာခြင်းမပြုသည့်နောက် မည်သည့် အချိန်တွင်မဆို ဒါရိုက်တာများ၏ အစည်းအဝေးဆုံးဖြတ်ချက်အရ သိမ်းယူနိုင်သည်။

၂၅။ သိမ်းယူသည့် အစုရှယ်ယာကို ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်သည့် စည်းကမ်း ချက်များနှင့် နည်းလမ်းများဖြင့် ရောင်းချနိုင်သည် သို့မဟုတ် အခြားနည်း ထုခွဲနိုင်သည်။ ထို့ပြင် ရောင်းချခြင်း သို့မဟုတ် ထုခွဲခြင်း မပြုမီ မည်သည့် အချိန်တွင်မဆို ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်သည့် စည်းကမ်းချက်များအရ အစုရှယ်ယာသိမ်းယူခြင်းကို ပယ်ဖျက်နိုင်သည်။

၂၆။ အစုရှယ်ယာ သိမ်းယူခြင်း ခံရခြင်း အစုရှယ်ယာရှင်သည် ထိုသိမ်းယူခြင်း ခံရသည့် အစုရှယ်ယာ နှင့် ပတ်သက်၍ အစုရှယ်ယာရှင်အဖြစ်မှ ရပ်စဲခြင်းခံရမည်။ သို့ရာတွင်ထိုအစုရှယ်ယာများကို သိမ်းယူခြင်း ခံရစေကာမူ ထိုအစုရှယ်ယာ နှင့် စပ်လျဉ်း၍ ကုမ္ပဏီသို့ သိမ်းယူခံရသည် နေ့အထိ လက်ဝလော ပေးရမည့် ငွေအားလုံးကို ထိုသူက ပေးရန်တာဝန် ဆက်လက်တည်ရှိမည်။ သို့ရာတွင် အစုရှယ်ယာများအတွက် သတ်မှတ် ထားသည့် တန်ဖိုးရင်း အပြည့်အဝကို ကုမ္ပဏီက ရရှိသည့်အခါ ထိုသူ၏ ပေးရန်တာဝန်မှ ရပ်စဲရမည်။

၂၇။ ကြေညာသူသည် ကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးဖြစ်ကြောင်း နည်းလမ်းတကျ ရေးသားထားသော မှန်ကန်ကြောင်း စစ်ဆေးထားသည့် ကြေညာစာတမ်း၌ ဖော်ပြထားသော နေ့ရက်တွင် ကုမ္ပဏီရှိ အစုရှယ်ယာ တစ်ခုကို နည်းလမ်းတကျ သိမ်းယူခြင်းဖြစ်ကြောင်း ကြေညာစာတမ်းသည် အစုရှယ်ယာအတွက် ပိုင်ဆိုင်ခွင့်ရှိကြောင်း တောင်းဆိုသည့် သူများအပေါ် ထိုကြေညာစာတမ်း၌ ဖော်ပြ ထားသည့် အကြောင်းအချက်များနှင့် စပ်လျဉ်း၍ အပြီးသတ်သက်သေခံချက် ဖြစ်ရမည်။ ထို့ပြင် ထိုကြေညာစာတမ်းနှင့် အစုရှယ်ယာကို ရောင်းချရာတွင် အဖိုးစားနား(ရှိလျှင်) အတွက်ကုမ္ပဏီကပေးသော ငွေရပြေစာတို့သည် အစုရှယ်ယာ ပိုင်ဆိုင်ခြင်းအတွက် တရားဝင်သော အထောက်အထားများ ဖြစ်ကြသည်။ ထို့ပြင် အစုရှယ်ယာကို သူတစ်ဦးသို့ရောင်းချ သို့မဟုတ် ထုခွဲလျှင် ထိုသူအား အစုရှယ်ယာ လက်ဝယ်ရှိသူအဖြစ် မှတ်ပုံတင်ပေးရမည်။ ထိုသူတွင် ဝယ်ယူသည့် ငွေ(ရှိလျှင်) သုံးစွဲပုံကို ကြည့်ရှုရန် မလိုစေရ။ ထိုအပြင် ထိုသူ၏ အစုရှယ်ယာအတွက်

ပိုင်ဆိုင်ခွင့်သည့် အစုရှယ်ယာကို သိမ်းယူခြင်း၊ ရောင်းချခြင်း၊ သို့မဟုတ် လုပ်ခြင်း ဆောင်ရွက်ရာ၌ နည်းလမ်းမကျမှုနှင့် လုပ်နည်းလုပ်ဟန် တရားမဝင်မှုကို ကြောင့် ထိခိုက်ခြင်းမရှိစေရ။

၂၈။ သိမ်းယူခြင်းဆိုင်ရာ စည်းမျဉ်းများပါ သတ်မှတ်ချက်များသည် အစုရှယ်ယာ ထုတ်ပေးစဉ် ကတည်းက သတ်မှတ်ချက်များ အစုရှယ်ယာ၏ ပမာဏပေါ် မူတည်၍ဖြစ်စေ၊ ပရီမီယံကြေး ပေးချေသည့် နည်းလမ်းအားဖြင့်ဖြစ်စေ သတ်မှတ်ထားသည့် အချိန်တွင်ပေးရန် ကျသင့်နေပြီး ဖြစ်သော မည်သည့် ငွေကြေးကိုမဆို မပေးဘဲ နေသည့် ကိစ္စ၌ ထိုငွေကြေးကို နည်းလမ်းတကျ ကောင်းခေါ်သော အကြောင်းကြားစာဖြင့် ပေးချေရန် ကျသင့်လာသည့် ငွေကြေးဖြစ်ဘိသကဲ့သို့ သက်ရောက်စေရမည်။

## မတည်ငွေရင်းကို ပြုပြင်ပြောင်းလဲခြင်း

၂၉။ ဒါရိုက်တာများသည်အထွေထွေ အစည်းအဝေးတွင် ကုမ္ပဏီ၏ အတည်ပြု ခွင့်ပြုချက်အရ အထူးဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီ၏ မတည်ငွေရင်းကို ဆုံးဖြတ်ချက်က ခွင့်ပြုမည့်ဖြစ်သည့် ပမာဏအတိုင်း သင့်လျော်သော အစုရှယ်ယာများအဖြစ် ခွဲစိတ်လျက် ဤမျှငွေဖြင့် တိုးမြှင့် နိုင်သည်။ သို့ရာတွင် **အမ်အက်စ်ဝိုင်(ဒ်)ဝါ(န်) ကုမ္ပဏီလီမိတက်** ၏ အစုရှယ်ယာ မတည်ငွေရင်းသည် အမြဲတမ်း ငွေရင်းအားလုံး၏ ၃၅ ရာခိုင်နှုန်းနှင့် အညီ သို့မဟုတ် ၃၅ ရာခိုင်နှုန်းထက် ပိုစေရမည်။

၃၀။ အစုရှယ်ယာ မတည်ငွေရင်း တိုးမြှင့်ရန် ခွင့်ပြုသည့် ဆုံးဖြတ်ချက်အရ ပေးထားသော မည်သည့် ညွှန်ကြားချက်ကိုမဆို ဆန့်ကျင်ခြင်းမရှိဘဲ အစုရှယ်ယာသစ်များကို မထုတ်မီ ကုမ္ပဏီ သို့မဟုတ် အထွေထွေ အစည်းအဝေးသည် ကမ်းလှမ်းချိန်၌ အကြောင်းကြားစာများရရန် အခွင့်အရေး ရှိသူများအား လက်ရှိ အစုရှယ်ယာများအပေါ် ပိုင်ဆိုင်ခွင့်ရှိသည့် အမျိုးအစားအလိုက် အခြေအနေ ပေးသည့်နှင့်အမျှ အစုရှယ်ယာသစ်များ အရေအတွက် မည်မျှဝယ်ယူခွင့် ရှိကြောင်းကို ကမ်းလှမ်းရမည်။ ကမ်းလှမ်းချက်ကို ကမ်းလှမ်းသည့် အစုရှယ်ယာဦးရေ အသေအချာ ဖော်ပြသည့် အကြောင်းကြားစာဖြင့် ပြုလုပ်ရမည့်အပြင် သတ်မှတ်ထားသည့် အချိန်ကာလအတွင်း လက်ခံခြင်း မပြုပါကငြင်းပယ်သည်ဟု မှတ်ယူရမည်ဟုလည်း ပါရှိရမည်။ ထို့ပြင် သတ်မှတ်ထား သည့်အချိန် ကုန်ဆုံးလျှင် သို့မဟုတ် ကမ်းလှမ်းခြင်း ခံရသူက ကမ်းလှမ်းသည့် အစုရှယ်ယာများကို လက်ခံရန် ငြင်းပယ်ကြောင်း အသိပေးအကြောင်းကြားစာ လက်ခံရရှိသည့်အခါ ဒါရိုက်တာများသည် အဆိုပါကမ်းလှမ်းသည့် အစုရှယ်ယာများကို ကုမ္ပဏီအား အကျိုးဖြစ်ထွန်းစေသည်ဟု ယူဆ သည့်အတိုင်း စီမံခန့်ခွဲနိုင်သည်။ ဒါရိုက်တာများသည် မည်သည့် အစုရှယ်ယာသစ်မဆိုကို ဤစည်းမျဉ်းအရ (အစုရှယ်ယာသစ်များကို အစုရှယ် ယာပိုင်ဆိုင်ခွင့် ရှိသူများအားအချိုးကျ) အဆင်ပြေစွာ ကမ်းလှမ်းခြင်း မပြုနိုင်ဟုထင်မြင်လျှင် မည်သည့် အစုရှယ်ယာကိုမဆို အထက်ပါအတိုင်း စီမံခန့်ခွဲနိုင်သည်။

၃၁။ အစုရှယ်ယာသစ်များသည် မူလ မတည်ငွေရင်းတွင် ပါရှိသော အစုရှယ်ယာများအပေါ် အစုရှယ်ယာအတွက် ငွေတောင်းဆိုခြင်း၊ တရားဝင် ထိန်းသိမ်းထားပိုင်ခွင့်ရှိခြင်း လွှဲပြောင်းခြင်း တစ်ဆင့်လွှဲပြောင်းခြင်း၊ သိမ်းယူခြင်းနှင့် အခြားနည်း ဆောင်ရွက်ခြင်းများ အစရှိသည်တို့သည် ဤစည်းမျဉ်းပါ ပြဋ္ဌာန်းချက်များနှင့် အညီဖြစ်ရသကဲ့သို့ အကျုံးဝင်စေရမည်။

၃၂။ ကုမ္ပဏီသည် သာမန်ဆုံးဖြတ်ချက်များအရ-

(က) မိမိ၏ လက်ရှိအစုမတည်ငွေရင်းကို စုပေါင်းပြီးလျှင် ထပ်မံခွဲစိတ်ခြင်းဖြင့် အစုရှယ်ယာများထက် တန်ဖိုးကြီးသော အစုများအဖြစ် ဖန်တီးနိုင်သည်။

(ခ) မိမိ၏ ရှိရင်းအစုရှယ်ယာများ သို့မဟုတ် ၎င်းတို့အနက် မည်သည်ကိုမဆို သင်းဖွဲ့မှတ်တမ်းတွင် သတ်မှတ်ထားသည်ထက် တန်ဖိုးအောက်ငယ်သော အစုများဖြစ်အောင် ထပ်မံခွဲခြားနိုင်သည်။ သို့ရာတွင် ထိုသို့ခွဲခြားရာ၌ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၅၀၊ ပိုဒ်မခွဲ (၁)၏ ပုဒ်မခွဲငယ် (ဃ) တွင်ပါရှိသော ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရမည်။

(ဂ) ဆုံးဖြတ်ချက် ချမှတ်သည့်နေ့တွင် မည်သူမျှ မယူရသေးသော သို့မဟုတ် ယူရန်သဘောမတူသေးသော မည်သည့် အစုရှယ်ယာများကိုမဆို ပယ်ဖျက်နိုင်သည်။

## အထွေထွေအစည်းအဝေးများ

၃၃။ ကုမ္ပဏီသည် သီးခြားဆုံးဖြတ်ချက်ဖြင့် မိမိ၏ အစုရှယ်ယာမတည်ငွေရင်းနှင့် မည်သည့် မတည်ငွေရင်း၊ အာမခံအထူးရန်ပုံငွေကိုမဆို ဥပဒေ၏ ခွင့်ပြုချက်နှင့် ပေးထားသော အခွင့်အာဏာအတိုင်း အာဏာနှင့်အညီ မည်သည့်နည်းလမ်းဖြင့် မဆို လျှော့ချနိုင်သည်။

၃၄။ အထွေထွေ အစည်းအဝေးကို ကုမ္ပဏီ ဖွဲ့စည်းတည်ထောင်ပြီးနောက် တစ်ဆယ့်ရှစ်လအတွင်း၌ ကျင်းပရမည်။ ထို့နောက်ပိုင်းတွင် ကျင်းပသည့် အထွေထွေအစည်းအဝေးများကို တစ်နှစ်လျှင် တစ်ကြိမ်ကျ ကုမ္ပဏီက အထွေထွေအစည်းအဝေး၌ သတ်မှတ်သည့်အချိန် (လွန်ခဲ့သော အထွေထွေအစည်းအဝေး ကျင်းပပြီးနောက် တစ်ဆယ့်ငါးလထက် မပိုသော ကာလအတွင်း)နှင့် နေရာတွင် ကျင်းပရမည်။ ထိုအထွေထွေအစည်းအဝေး ကျင်းပရန် ပျက်ကွက်ခဲ့လျှင် နောက်လာမည့်လအတွင်း၌ ကျင်းပရမည်။ ထို့ပြင် အဖွဲ့ဝင် နှစ်ဦးတို့က ဒါရိုက်တာများအနေဖြင့် အစည်းအဝေးခေါ်ယူသည့် နည်းလမ်းအတိုင်း အနီးစပ်ဆုံး ဖြစ်စေ၍ အထွေထွေအစည်းအဝေးကို ခေါ်ယူနိုင်သည်။

၃၅။ အထက်ဖော်ပြပါ အထွေထွေအစည်းအဝေးများကို သာမာန်အစည်းအဝေးများဟု ခေါ်ဆိုရမည်။ အခြားအထွေထွေအစည်းအဝေးများကိုမူ အထူးအစည်းအဝေးများ ခေါ်ဆိုရမည်။

၃၆။ ဒါရိုက်တာများသည် မိမိတို့သင့်လျော်သည်ဟု ယူဆလျှင် အထူးအထွေထွေအစည်းအဝေးကို ခေါ်ယူနိုင်သည်။ ထို့အပြင် အထူးအထွေထွေအစည်းအဝေးကို တောင်းဆိုသည့်အခါ ခေါ်စေနိုင်သည်။ သို့မဟုတ် ပျက်ကွက်ပါက မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၇၈ တွင်ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပါ တောင်းဆိုသူများက ခေါ်ယူနိုင်သည်။ အကယ်၍ မည်သည့်အချိန်မဆို ဆောင်ရွက်ရန် အထမြောက်သည့် ဒါရိုက်တာဦးရေ ပြည့်မြောက်စွာ မြန်မာနိုင်ငံတော်အတွင်း မရှိလင်ပါက၊ ဒါရိုက်တာတစ်ဦး သို့မဟုတ် ကုမ္ပဏီ အစုရှယ်ယာဝင်နှစ်ဦးက အထူးအထွေထွေအစည်းအဝေးကို ဒါရိုက်တာများက ခေါ်ယူသည့် အစည်းအဝေးခေါ်ယူစေသည့် နည်းလမ်းအတိုင်း အနီးစပ်ဆုံး ဖြစ်စေလျက် ခေါ်ယူနိုင်သည်။

## အထွေထွေ အစည်းအဝေးတွင် ဆောင်ရွက်ချက်များ

၃၇။ သီးခြားဆုံးဖြတ်ချက်နှင့် သက်ဆိုင်သော မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၁၊ ပုဒ်မခွဲ(၂) တွင်ပါရှိသော ပြဋ္ဌာန်းချက်များနှင့်အညီ အနည်းဆုံး ကစ်ဆယ့်လေးရက် (အကြောင်းကြားစာ ချအပ်သည့်နေ့ရက် သို့မဟုတ် ချအပ်သည်ဟု မှတ်ယူရမည့် နေ့ရက်ကို မပါဝင်ဘဲ အကြောင်းကြားစာဖြင့် ချိန်းဆိုသည့်နေ့ရက် အပါအဝင်) ကြိုတင်ပေးသည့် အကြောင်းကြားစာဖြင့် နေရာ၊ နေ့ရက်နှင့် အစည်းအဝေး ပြုလုပ်မည့်အချိန်တို့ကို ဖော်ပြလျက် အဖွဲ့ဝင်များအား ဖိတ်ခေါ်ရမည်။ ထို့အပြင် သီးခြားလုပ်ငန်းကိစ္စပါဝင်လျှင်၊ လုပ်ငန်း၏ ယေဘုယျသဘော သဘာဝကို ဖော်ပြ၍ နောင်တွင် ဆက်လက်ဖော်ပြမည့် နည်းလမ်းများအတိုင်း၊ သို့မဟုတ် အထွေထွေအစည်းအဝေးများတွင် ကုမ္ပဏီက သတ်မှတ်သည့် အခြားနည်းလမ်းအတိုင်း (ရှိလျှင်) မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ကုမ္ပဏီ၏ စည်းမျဉ်းများနှင့်အညီ ကုမ္ပဏီမှ အကြောင်းကြားစာများရရန် အခွင့်အရေးရှိသူများထံသို့ အကြောင်းကြားစာ ပေးအပ်ရမည်။ သို့ရာတွင် အကြောင်းကြားစာပေးရန် မတော်တဆ ပျက်ကွက်ခဲ့ခြင်းကြောင့်သော်လည်းကောင်း၊ အစုရှယ်ယာဝင်တစ်ဦးက အကြောင်းကြားစာ မရရှိခြင်းကြောင့်သော်လည်းကောင်း၊ မည်သည့်အထွေထွေ အစည်းအဝေးတွင် ဆောင်ရွက်မှုများကို ပျက်ပြယ်ခြင်း မရှိစေရ။

၃၈။ သီးခြားအစည်းအဝေးတွင် ဆောင်ရွက်သည့် လုပ်ငန်းကိစ္စ အားလုံးသည် အထူးကိစ္စ ဖြစ်သည်ဟု မှတ်ယူရမည်။ ထို့ပြင် သာမန် အစည်းအဝေး တစ်ခုခုတွင် အမြတ်ဝေစု တစ်ရပ် ခွဲဝေခွင့်ပြုခြင်း၊ ငွေစာရင်းများ၊ လက်ကျန်ရှင်းတမ်းများ၊ ဒါရိုက်တာများနှင့် စာရင်းစစ်များ၏ သာမန် အစီရင်ခံစာများ စဉ်းစားခြင်း၊ ဒါရိုက်တာနှင့် အခြားအရာရှိများ အလှည့်ကျ နုတ်ထွက်သဖြင့် ၎င်းတို့၏ နေရာများအတွက် ရွေးချယ်တင်မြှောက်ခြင်းကို အထူးကိစ္စဟု မှတ်ယူရမည်။

၃၉။ အထွေထွေ အစည်းအဝေးတစ်ခုခုတွင် အစည်းအဝေး စတင်ချိန်၌ အစည်းအဝေးအထမြောက်ရန် လိုအပ်သည့် အစုရှယ်ယာဝင် ဦးရေ ပြည့်စုံစွာ မတက်ရောက်လျှင် ထိုအစည်းအဝေးတွင် မည်သည့် ကိစ္စကိုမျှ မဆောင်ရွက်ရ။ သို့ရာတွင် အဖွဲ့ဝင်နှစ်ဦးကိုယ်တိုင် တက်ရောက်လျှင် အစည်းအဝေး ထမြောက်သော ဦးရေပြည့်စုံသည်ဟု မှတ်ယူရမည်။

၄၀။ အစည်းအဝေး ကျင်းပရန် ချိန်းဆိုထားသော အချိန်ကျရောက်၍ နာရီဝက်အတွင်း အစည်းအဝေး အထမြောက်ရန် လိုအပ်သောဦးရေ မတက်ရောက်လျှင် အစုရှယ်ယာဝင်များ၏ တောင်းဆိုချက်အရ ခေါ်ယူသော အစည်းအဝေးဖြစ်ပါက၊ အစည်းအဝေးကို ဖျက်သိမ်းရမည်။ ထိုကဲ့သို့သော အစည်းအဝေးမျိုးမဟုတ်ပါက အစည်းအဝေးကို နောက်လာမည့် ရက်သတ္တပတ်အတွင်း ထိုနေ့၊ထိုအချိန်၊ ထိုနေရာတွင် ကျင်းပရန် ရွှေ့ဆိုင်းထားရမည်။ ရွှေ့ဆိုင်းသည့် အစည်းအဝေးတွင် အစည်းအဝေး ပြုလုပ်ရန် ချိန်းဆိုထားသော အချိန်စေ့ရောက်ပြီး နာရီဝက်အတွင်း လိုအပ်သည့် ဦးရေ မတက်ရောက်လျှင် အစည်းအဝေး တက်ရောက်သည့် အစုရှယ်ယာဝင်များသည် အစည်းအဝေး အထမြောက်စေသည့် အဖွဲ့ဝင်ဦးရေ ဖြစ်စေရမည်။

၄၁။ ဒါရိုက်တာများ အဖွဲ့၏ သဘာပတိ (ရှိလျှင်)သည် ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေးတိုင်းတွင် သဘာပတိ အဖြစ်ဆောင်ရွက်ရမည်။

၄၂။ အကယ်၍ ဖေါ်ပြပါ သဘာပတိ မရှိလျှင်သော်လည်းကောင်း၊ အစည်းအဝေး ကျင်းပပြုလုပ်ရန် ချိန်းဆိုသည့် အချိန်စေ့ပြီးနောက် တစ်ဆယ့်ငါးမိနစ်အတွင်း သဘာပတိ မတက်ရောက်လျှင် သော်လည်းကောင်း၊ သဘာပတိအဖြစ် မဆောင်ရွက်လိုလျှင် သော်လည်းကောင်း၊ အစည်းအဝေးတက်ရောက်သူ အစုရှယ်ယာဝင်များအထဲမှ တစ်ဦးကို သဘာပတိအဖြစ် ဆောင်ရွက်ရန် ရွေးချယ်တင်မြှောက်ရမည်။

၄၃။ သဘာပတိသည် အစည်းအဝေး ထမြောက်ရန် လိုအပ်သောဦးရေ တက်ရောက်သည့် မည်သည့် အစည်းအဝေး၏ သဘောတူညီချက် (ထို့ပြင် အဆိုပါအစည်းအဝေးက ရွှေ့ဆိုင်းရမည် ညွှန်ကြားလျှင်) ဖြင့် အစည်းအဝေးကို တစ်ချိန်မှတစ်ချိန်သို့ လည်းကောင်း၊ တစ်နေရာမှ တစ်နေရာသို့လည်းကောင်း ရွှေ့ဆိုင်းနိုင်သည်။ သို့ရာတွင် မူလအစည်းအဝေးတွင် ဆောင်ရွက်ရန်ကျန်ရှိသော လုပ်ငန်းကိစ္စမှ တစ်ပါး အခြားလုပ်ငန်းကိစ္စများကို ရွှေ့ဆိုင်းသည့် အစည်းအဝေးတွင် မဆောင်ရွက်ရ။ အစည်းအဝေးကို ရက်ပေါင်းဆယ်ရက်၊ သို့မဟုတ် ၎င်းရက်များထက်ပို၍ ရွှေ့ဆိုင်းလျှင် မူလ အစည်းအဝေးတွင် အကြောင်းကြားစာ ပေးသကဲ့သို့ ရွှေ့ဆိုင်းမည့် အစည်းအဝေးတွင် အကြောင်းကြားစာ ပေးရမည်။ ထိုသို့ ဆိုခဲ့သည်မှတပါး ထိုသို့ ရွှေဆိုင်းကြောင်းသော်လည်းကောင်း၊ ရွှေ့ဆိုင်းသည့် အစည်းအဝေးတွင် ဆောင်ရွက်သည့် လုပ်ငန်းကိစ္စများအကြောင်းသော်လည်းကောင်း၊ အကြောင်းကြားစာ ပေးရန်မလိုပေ။

၄၄။ အထွေထွေအစည်းအဝေး၌ အဆိုတစ်ခုနှင့် စပ်လျဉ်း၍ ဆုံးဖြတ်ရာတွင် (လက်ထောင်ပြသည့်စနစ်ဖြင့် မဲခွဲ၍ အရှုံးအနိုင်ကို မကြေညာမီဖြစ်စေ၊ ကြေညာချိန်၌ဖြစ်စေ) အနည်းဆုံး အစုရှယ်ယာဝင် သုံးဦးက မဲပြားပေးစနစ်ဖြင့် မဲခွဲရန် တောင်းဆိုခြင်း မပြုလျှင် လက်ထောင်ပြသည့် စနစ်ဖြင့် မဲခွဲ ဆုံးဖြတ် နိုင်သည်။ ထိုပြင် မဲပြားပေးစနစ်ဖြင့် မဲခွဲရန် တောင်းဆိုခြင်းမရှိလျှင် သဘာပတိက အဆိုသည် လက်ထောင်စနစ်ဖြင့် အထမြောက်ကြောင်း၊ သို့မဟုတ် တညီတညွတ်တည်း သဘောတူ အထမြောက် ကြောင်း၊ သို့မဟုတ် မည်မျှ အသာမဲဖြင့် အနိုင်ရရှိကြောင်း၊ သို့မဟုတ် ရှုံးကြောင်း ကြေညာချက်နှင့် ထိုကြေညာချက်ကို ကုမ္ပဏီ၏ အစည်းအဝေးမှတ်တမ်း စာအုပ်တွင် ရေးသွင်းခြင်းသည် ယင်းအဆိုကို ထောက်ခံသည် သို့မဟုတ် ကန့်ကွက်သည့် မဲအရေအတွက်ကိုဖြစ်စေ၊ မဲအရေအတွက် အချိုးအစားကို ဖြစ်စေ၊ အထောက်အထား ထင်ရှားမပြဘဲ အဆိုအနိုင်ရရှိခြင်း၊ သို့မဟုတ် ရှုံးခြင်းနှင့် စပ်လျဉ်း၍ လုံလောက်သော အပြီးသတ် သက်သေခံချက် ဖြစ်ရမည်။

၄၅။ မဲပြားပေးစနစ် မဲခွဲရန် နည်းလမ်းတစ်ကျ တောင်းဆိုလျှင် သဘာပတိ၏ ညွှန်ကြားချက်များနှင့် အညီ မဲခွဲခြင်းကို ပြုလုပ်ရမည်။ ထိုသို့ မဲပြားပေးစနစ်ဖြင့် မဲခွဲ၍ ရရှိသော ရလာဒ်များသည် မဲခွဲရန် တောင်းဆိုသည့် အစည်းအဝေး၌ ချမှတ်သော ဆုံးဖြတ်ချက်ဟု မှတ်ယူရမည်။

၄၆။ လက်ထောင်ပြသည့် စနစ်ဖြင့် ဖြစ်စေ၊ မဲပြားပေး စနစ်ဖြင့်ဖြစ်စေ မဲခွဲရာတွင် မဲအရေအတွက်တူနေလျှင် အစည်းအဝေး သဘာပတိသည် ဒုတိယ သို့မဟုတ် အနိုင်မဲကို ပေးပိုင်ခွင့် ရှိရမည်။

၄၇။ သဘာပတိ ရွေးကောက်တင်မြှောက်ရန်အတွက် ဖြစ်စေ၊ အစည်းအဝေး ရွှေ့ဆိုင်းရန် အတွက်ဖြစ်စေ၊ တောင်းဆိုသည့် မဲပြားစနစ်ဖြင့် မဲခွဲခြင်းကို ချက်ခြင်းပြုလုပ်ရမည်။ အခြားကိစ္စ တစ်ခုနှင့် စပ်လျဉ်း၍ တောင်းဆိုသည့် မဲပြားပေး စနစ်ဖြင့် မဲခွဲခြင်းကို အစည်းအဝေး သဘာပတိ၏ ညွှန်ကြားသည့် အချိန်၌ ပြုလုပ်ရမည်။

## အစုရှယ်ယာဝင်များ၏ မဲများ

၄၈။ လက်ထောင်ပြ စနစ်ဖြင့် မဲခွဲရာတွင် ကိုယ်တိုင်တက်ရောက်သော အစုရှယ်ယာဝင်တိုင်းသည် မဲတစ်မဲသာလျှင် ပေးခွင့်ရှိသည်။ မဲပြားစနစ်ဖြင့် မဲပေးရာတွင် အစုရှယ်ယာဝင်တိုင်းသည် မိမိလက်ဝယ်ရှိသည့် အစုရှယ်ယာ တစ်စုအတွက် မဲတစ်မဲ ပေးပိုင်ခွင့် ရှိသည်။

၄၉။ အစုရှယ်ယာ တစ်ခုကို တွဲဖက်ပိုင်ဆိုင်သည့် ကိစ္စတွင် မဲလာပေးသူ ဝါအရင့်ဆုံးက ကိုယ်တိုင်သော်လည်းကောင်း၊ ကိုယ်စားပေးသူ ခန့်ထားစေလွှတ်၍ သော်လည်းကောင်း၊ ပေးသောမဲကိုသာ ကခြားပူးတွဲပိုင်ဆိုင်သူများ၏ မဲများကို မပါဝင်စေဘဲ လက်ခံရမည်။ ဤကိစ္စအလို့ငှာ တွဲဖက်ပိုင်ဆိုင်ခြင်းနှင့် စပ်လျဉ်း၍ အဖွဲ့ဝင် မှတ်ပုံတင်စာအုပ်တွင် ပါရှိသော အမည်များ၏ အစဉ်အရ မည်သူဝါရင့်သည်ကို ဆုံးဖြတ်ရမည်။

၅၀။ စိတ်ပေါ့သွပ်သည့် သို့မဟုတ် စိတ်ပေါ့သွပ်ခြင်းနှင့် စပ်လျဉ်း၍ စီရင်ပိုင်ခွင့်ရှိသော တရားရုံးက အမိန့်ချမှတ်ခြင်း ခံရသူ အစုရှယ်ယာဝင် တစ်ဦးသည် လက်ထောင်ပြစနစ်ဖြင့် မဲပေးရာတွင် လည်းကောင်း၊ မဲပြားပေးစနစ်ဖြင့် မဲပေးရသည့်အခါတွင် လည်းကောင်း သူ၏ ကော်မတီ သို့မဟုတ် အခြားတရားဝင် အုပ်ထိန်းသူကို ကိုယ်စားလှယ် လွှဲအပ်ခြင်းဖြင့် မဲပေးနိုင်သည်။ အဆိုပါကော်မတီ သို့မဟုတ် တရားဝင် အုပ်ထိန်းသူသည် မဲပြားပေးစနစ်ဖြင့် မဲပေးခြင်းကို ကိုယ်စားမဲပေးသူဖြင့် ပေးနိုင်သည်။

၅၁။ အစုရှယ်ယာဝင် တစ်ဦးသည် ကုမ္ပဏီတွင်ရှိသော အစုရှယ်ယာများနှင့် ပတ်သက်၍ ချက်ချင်းပေးရမည် ဖြစ်သော တောင်းဆိုသည့် ငွေအားလုံး သို့မဟုတ် အခြားငွေများကို မပေးရသေးလျှင် မည်သည့် အထွေထွေ အစည်းအဝေးတွင်မှ မဲပေးပိုင်ခွင့် မရှိစေရ။

၅၂။ မဲပြားပေးစနစ်ဖြင့် မဲခွဲရာတွင် မဲများကို ကိုယ်တိုင်ဖြစ်စေ၊ ကိုယ်စား မဲပေးသူဖြင့် ဖြစ်စေ ပေးနိုင်သည်။ သို့ရာတွင် မည်သည့် ကုမ္ပဏီမှ တည်ဆဲဖြစ်သော မြန်မာ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၀ ပါ ပြဋ္ဌာန်းချက်များနှင့် အညီ ကုမ္ပဏီ ဒါရိုက်တာများ၏ ဆုံးဖြတ်ချက် တည်မြဲနေသမျှ ကိုယ်စားမဲပေးခြင်းကို မည်သည့် ကုမ္ပဏီကမျှ ပြုလုပ်ပိုင်ခွင့် မရှိစေရ။

၅၃။ ကိုယ်စား မဲပေးသူအား ခန့်ထားသော စာချုပ်စာတမ်းသည် ကိုယ်စားမဲပေးသူအား ခန့်ထားက ဖြစ်စေ၊ ၎င်း၏ နည်းလမ်းတကျ စာဖြင့်ရေးသား အာဏာပေးထားသော ကိုယ်စားလှယ်ကဖြစ်စေ၊ လက်မှတ်ရေးထိုး ခန့်ထားရမည်။ အကယ်၍ ခန့်ထားသူသည် ကော်ပိုရေးရှင်းဖြစ်သည့် ကိစ္စတွင် ထိုကော်ပိုရေးရှင်း၏ တံဆိပ်ရိုက်နှိပ်ရမည်။ သို့မဟုတ် အရာရှိ တစ်ဦးက ဖြစ်စေ၊ အာဏာလွှဲအပ်ခံရသော ကိုယ်စားလှယ်က ဖြစ်စေ လက်မှတ်ရေးထိုးရမည်။ ကုမ္ပဏီ၏ အစုရှယ်ယာဝင် မဟုတ်သူ တစ်ဦးသည် ကိုယ်စား မဲပေးသူအဖြစ် ဆောင်ရွက်ခွင့် မရှိစေရ။

၅၄။ ကိုယ်စားမဲပေးသူ ခန့်စာနှင့် ကိုယ်စားလှယ် လွှဲစာ သို့မဟုတ် လက်မှတ်ရေးထိုးခွင့်ပြုသော အခြား အာဏာ (ရှိလျှင်) အဆိုပါ အာဏာ သို့မဟုတ် ခွင့်အာဏာကို ဟုတ်မှန်ကြောင်း နိုတရီ ပတ်ပလစ်က မှန်ကန်ကြောင်း ရေးထိုးထားသည့် စာကို ထိုစာတမ်း၌ အမည်ဖော်ပြထားသူက မဲပေးရန်ရှိသော အစည်းအဝေး စတင်ရန် မတိုင်မီ အနည်းဆုံး ခုနစ်ဆယ့်နှစ်နာရီ ကြိုတင်၍ ကုမ္ပဏီ၏ မှတ်ပုံတင်ထားသော ရုံး၌ ပေးအပ်ရမည်။ ပျက်ကွက်လျှင် ထိုကိုယ်စား မဲပေးခွင့်ပြုသည့် ခန့်စာကို တရားဝင်ဟု မမှတ်ယူရ။

၅၅။ ကိုယ်စားမဲပေးသူ ခန့်ခြင်းဆိုင်ရာ စာချုပ်စာတမ်း တစ်စောင်သည် အောက်ပါပုံစံအတိုင်း သို့မဟုတ် ဒါရိုက်တာများက လက်ခံအတည်ပြုသည့် အခြားပုံစံအတိုင်း ဖြစ်စေရမည်။

**" အမ်အက်စ်ဝှ(န်)ဝါ(န်) ကုမ္ပဏီလီမိတက် "**

.... ..... ..... ..... ..... .. နေ၊ ကျွန်ုပ် ..... .... ..... ..... ..... ..... ..... သည်၊ အထက်ဖော်ပြပါ ကုမ္ပဏီတွင် အစုရှယ်ယာဝင် တစ်ဦးဖြစ်၍ (..... .... ..... ..... ..... .... ..... .....) နေ၊ ..... ..... ..... .... ..... အား ကျွန်ုပ်၏ ကိုယ်စားလှယ်အဖြစ်) ..... ..... ..... နှစ်၊ ..... ..... ..... ..... ..... လ၊..... ..... ရက် နေ့တွင် ကျင်းပပြုလုပ်မည့် ဖော်ပြပါ ကုမ္ပဏီ အထွေထွေ အစည်းအဝေး (သာမာန် သို့မဟုတ် အထူး အစည်းအဝေးအလိုက်) နှင့် ထိုအစည်းအဝေးအား ရွှေ့ဆိုင်းသည့် မည်သည့် အစည်းအဝေး၌မဆို ကျွန်ုပ်အတွက်နှင့် ကျွန်ုပ်၏ ကိုယ်စား မဲပေးရန် ခန့်ထားကြောင်း ..... ..... ..... ခု၊ ..... ..... .... ..... လ၊ ..... ..... ရက်နေ့တွင် လက်မှတ်ရေးထိုးပါသည်။

ဒါရိုက်တာများ

၅၆။ ဒါရိုက်တာဦးရေနှင့် ပထမ ဒါရိုက်တာများ၏ အမည်များကို ဤသင်းဖွဲ့မှတ်တမ်းအား လက်မှတ်ရေးထိုးသူများက စာဖြင့်ရေးသား သတ်မှတ်ရမည်။

ကုမ္ပဏီ၏ ပထမ ဒါရိုက်တာများမှာ အောက်ပါအတိုင်းဖြစ်ရမည်–

၁။

၂။

၃။

၄။

ကုမ္ပဏီ ဒါရိုက်တာ ဦးရေမှာ ကိုးဦးထက်မများ၊ လေးဦးထက်မနည်းစေရ။

၅၇။ ဒါရိုက်တာများ၏ တာဝန်ယူခြင်းအတွက် အခကြေးငွေကို ကုမ္ပဏီက အထွေထွေ အစည်းအဝေးတွင် အခါအားလျော်စွာ သတ်မှတ်ရမည်။

၅၈။ အများနှင့် သက်ဆိုင်သော ကုမ္ပဏီ လီမိတက်တစ်ခုအနေဖြင့် ဒါရိုက်တာ တစ်ဦး၏ အရည်အချင်းမှာ ကုမ္ပဏီတွင် အနည်းဆုံး အစုရှယ်ယာ တစ်စုပိုင်ဆိုင်သူ ဖြစ်ရမည်ဖြစ်ပြီး ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၅ ဂါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၅၉။ ဒါရိုက်တာများသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပါ ပြဋ္ဌာန်းချက် သို့မဟုတ် ကန့်သတ်ဖွဲ့စည်းသည့် အဆိုပါ ဥပဒေများကို ဥပဒေနှင့်အညီ ပြောင်းလဲခြင်းများအား နည်းလမ်းတကျ လိုက်နာရမည့်အပြင် အထူးသဖြင့် ကုမ္ပဏီနှင့် ဖန်တီးသော ဝန္တည်းဥစ္စာများဆိုင်ရာ ပေါင်းနှံခြင်းများနှင့် ကုမ္ပဏီ၏ ဝန္တည်းများကို ထိပါးသည့် တောင်းခံခွင့် တင်ရှိခြင်း၊ သို့မဟုတ် ကုမ္ပဏီက ဖြုလုပ်သည့် သို့မဟုတ် တောင်းခံခွင့် တင်ရှိခြင်းတို့နှင့် စပ်လျဉ်းသည့် အချက်အလက်များ မှတ်ပုံတင်ခြင်းနှင့် စပ်လျဉ်းသည့် ပြဋ္ဌာန်းချက်များကို လိုက်နာရမည်။ ထို့ပြင် ဒါရိုက်တာများ၏ မှတ်ပုံတင်စာအုပ် ထိန်းသိမ်းထားရှိခြင်းနှင့် အစုရှယ်ယာဝင်များ၏ စာရင်းနှင့် ၎င်းတို့၏ အကြောင်းအရာ အကျဉ်းချုပ်တစ်စောင်ကို နှစ်စဉ် မှတ်ပုံတင် အရာရှိထံ ပေးပို့ခြင်း၊ အစုရှယ်ယာငွေရင်းကို ပေါင်းခြင်း၊ သို့မဟုတ် တိုးမြှင့်ခြင်းအတွက် အကြောင်းကြားစာ ပေးပို့ခြင်းနှင့် အထူးဆုံးဖြတ်ချက် မိတ္တူများနှင့် ဒါရိုက်တာများ မှတ်ပုံတင်စာရင်း မိတ္တူ တစ်စောင်နှင့် ဒါရိုက်တာ အပြောင်းအလဲ အမိန့် အကြောင်းကြားစာ ပေးပို့ခြင်းတို့နှင့် ပတ်သက်၍ အထူးသဖြင့် နည်းလမ်းတကျ လိုက်နာဆောင်ရွက်ရမည်။

၆၀။ ကုမ္ပဏီ၌ စီမံအုပ်ချုပ်မှု လုပ်ရည်ကိုင်ရည်များ၊ အထူးပင်ကိုယ်ဉာဏ် ကောင်းခြင်းများ သို့မဟုတ် အသက်မွေးဝမ်းကြောင်းဆိုင်ရာ ကျွမ်းကျင်မှုတို့အရ ကုမ္ပဏီ၏ ဒါရိုက်တာများအဖွဲ့တွင် အဖွဲ့ဝင်များအဖြစ် ပါဝင်လာကြသူများ အသီးသီး ဖြစ်ကြသည်ကို အကြောင်းပြု၍ ကုမ္ပဏီ၏ ဒါရိုက်တာများ၊ အဖွဲ့ဝင်များလည်း ဖြစ်လာကြမည့် အမှုဆောင် ဒါရိုက်တာများဖြင့် ဖွဲ့စည်းသည့် ဝန်ဆောင်အဖွဲ့အား စီမံအုပ်ချုပ်သူများ အဖြစ် ဒါရိုက်တာများ အဖွဲ့က အခါအားလျော်စွာ သတ်မှတ်သော ကုမ္ပဏီ၏ အမြတ်ငွေ၏ တစ်စုံတစ်ခုသော ရာခိုင်နှုန်းကို ခံစားရန် အခွင့်အရေး ရရှိရမည်။ ဝန်ဆောင်အဖွဲ့အား စီမံခန့်ခွဲသူများသည် ကုမ္ပဏီ၏ နေ့စဉ်လုပ်ငန်းများကို စီမံခန့်ခွဲပြီး ဒါရိုက်တာများ အဖွဲ့သည် မည်သည့် နည်းလမ်းဖြင့်မျှ ဝင်ရောက်စွက်ဖက်ခြင်း မပြုရ။

၆၁။ ဝန်ဆောင်အဖွဲ့အား စီမံခန့်ခွဲသူများသည် ကည်ဆဲဥပဒေများပါ ပြဋ္ဌာန်းချက်များနှင့် ဒါရိုက်တာအဖွဲ့က ချမှတ်သော မူဝါဒနှင့် အညီ ကုမ္ပဏီလုပ်ငန်းများကို ဆောင်ရွက်ရမည်။ ဒါရိုက်တာများ အဖွဲ့က ခန့်ထားသော အုပ်ချုပ်မှု ဒါရိုက်တာသည် ဝန်ဆောင်အဖွဲ့အား စီမံခန့်ခွဲသည့် အကြီးအကဲ ဖြစ်ရမည်။ ထိုသူအား ထုတ်ပယ်ရန် ဆုံးဖြတ်ချက် တစ်စုံတစ်ခုကို ချမှတ်ရာ၌ မဲအရေအတွက်မှာ ၅၀ ရာခိုင်နှုန်းထက် မပိုလျှင် ထိုသူအား ရာထူးမှ မထုတ်ပယ်ရ။

၆၂။ အုပ်ချုပ်မှု ဒါရိုက်တာမှလွဲ၍ အခြားသော ဝန်ဆောင်အဖွဲ့အား စီမံခန့်ခွဲသူများသည် မဲပေးပိုင်ခွင့် မရှိစေရ။ သို့ရာတွင် ထိုသူတို့သည် ၎င်းတို့၏ တတ်မြောက်သော လုပ်ငန်းပိုင်းအတွင်း ကျရောက်သော အကြောင်းကိစ္စများနှင့် စပ်လျဉ်း၍ ဒါရိုက်တာများ အဖွဲ့အား အကြံပေးရန် အခွင့်အရေး ရှိကြသည်။

၆၃။ ဒါရိုက်တာများသည် အောက်ပါ ကိစ္စအတွက် မှတ်တမ်းစာအုပ်များ ထားရှိရမည်

(က) ဒါရိုက်တာများက အစုရှယ်ယာများ ခန့်ထားခြင်း ကိစ္စအားလုံး၊

(ခ) ဒါရိုက်တာများ၏ အစည်းအဝေးတိုင်းနှင့် မည်သည့် ကော်မတီ အစည်းအဝေးတွင် မဆို တက်ရောက်သော ဒါရိုက်တာများ၏ အမည်များ၊

(ဂ) ကုမ္ပဏီ အစည်းအဝေးများ၊ ဒါရိုက်တာများ၏ ကော်မတီ အစည်းအဝေးများ၏ ဆုံးဖြတ်ချက်နှင့် ဆောင်ရွက်ချက် ကိစ္စများ အားလုံးကို၎င်း ဒါရိုက်တာ အစည်းအဝေး သို့မဟုတ် ဒါရိုက်တာများ၏ ကော်မတီအစည်းအဝေးများသို့ တက်ရောက်သော ဒါရိုက်တာများသည် ထိုကိစ္စ အလို့ငှာ ထားရှိသော စာအုပ်တွင် မိမိ၏ အမည်ကို လက်မှတ်ရေးထိုးရမည်။

## တံဆိပ်

၆၄။ ကုမ္ပဏီ၏ တံဆိပ်ကို မည်သည့် စာရွက်စာတမ်းပေါ်တွင်မဆို ဒါရိုက်တာများ၏ ဆုံးဖြတ်ချက်ဖြင့် ပြုသည့် အခွင့် အမိန့်နှင့် အညီဖြစ်စေ၊ အနည်းဆုံး ဒါရိုက်တာ နှစ်ဦး၏ ရှေ့တွင် သို့မဟုတ် ဒါရိုက်တာများက ခန့်ထားသော အခြားပုဂ္ဂိုလ်နှင့် အတွင်းရေးမှူး ရှေ့တွင်မှ တစ်ပါး အသုံးမပြုရ။ အထက်က ဆိုခဲ့သော ဒါရိုက်တာနှစ်ဦးနှင့် အတွင်းရေးမှူး သို့မဟုတ် အထက်တွင်ဆိုခဲ့သော အခြား ပုဂ္ဂိုလ်တို့သည် သူတို့၏ ရှေ့တွင်တံဆိပ်ရိုက်ထားသော စာရွက်စာတမ်းတိုင်းတွင် မိမိကို ရှေ့မှောက်၌ ခတ်နှိပ်ကြောင်း လက်မှတ်ရေးထိုးရမည်။

## ဒါရိုက်တာများ၏ အရည်းအချင်း ရှုတ်ယွင်းချက်များ

၆၅။ ဒါရိုက်တာ တစ်ဦးသည် အောက်ပါကိစ္စ တစ်ခုခုကြောင့် ဒါရိုက်တာရာထူးမှ ရပ်စဲခံရမည်

(က) ဒါရိုက်တာ တစ်ဦးသည် သူ့အား ခန့်ထားသည့် နေ့မှ ခြောက်လအတွင်း ဒါရိုက်တာဖြစ်ရန် လိုအပ်သော အစုရှယ်ယာ အရေအတွက် ရရှိရန် ပျက်ကွက်ခြင်း သို့မဟုတ် ထို့နောက်တွင် ဒါရိုက်တာအဖြစ် ခန့်ထားရန် လိုအပ်သော အစုရှယ်ယာ အရေအတွက် ပိုင်ဆိုင်ခြင်းမှ ရပ်စဲလျှင်၊

(ခ) စီရင်ပိုင်ခွင့်ရှိသော တရားရုံးက စိတ်ပေါ့သွပ်ကြောင်း ဆုံးဖြတ်ခြင်း ခံရလျှင်၊

(ဂ) လူမွဲအဖြစ် ကြေညာ ခံရလျှင်၊

(ဃ) သူ၏ လက်ဝယ်ရှိသော အစုရှယ်ယာအပေါ် ငွေများတောင်းဆိုရာတွင် ထိုသို့ တောင်းဆိုသည့်နေ့မှ ခြောက်လအတွင်း ပေးသွင်းရန် ပျက်ကွက်လျှင်၊

(င) အထွေထွေ အစည်းအဝေးတွင် ကုမ္ပဏီ၏ ခွင့်ပြုချက်မရရှိဘဲ ကုမ္ပဏီ အကျိုးအမြတ်ရှိသော မည်သည့် အလုပ်ကိုမဆို အုပ်ချုပ်မှု ဒါရိုက်တာ သို့မဟုတ် မန်နေဂျာ သို့မဟုတ် ဥပဒေကျွမ်းကျင်မှုဆိုင်ရာ အကြံပေး သို့မဟုတ် ဘဏ်လုပ်ငန်းရှင်မှလွဲသော မည်သည့် အလုပ်ကိုမဆို လက်ခံခြင်း သို့မဟုတ် တာဝန်ယူခြင်းကို ပြုလျှင်၊

(စ) ဒါရိုက်တာများအဖွဲ့၏ ခွင့်ပြုချက် မရဘဲ တစ်ဆက်တည်းဖြစ်သော ဒါရိုက်တာများ၏ အစည်းအဝေး သုံးကြိမ် သို့မဟုတ် သုံးလအတွင်း ကျင်းပသော ဒါရိုက်တာ အစည်းအဝေးများ အားလုံးသို့ တက်ရောက်ရန် (ထိုအစည်းအဝေး နှစ်ရပ်အတွက် ပိုမိုရှည်လျားသော ကာလအတွက်) ပျက်ကွက်လျှင်၊

(ဆ) ကုမ္ပဏီမှ ချေးငွေ သို့မဟုတ် အာမခံ တစ်ခုခုကို လက်ခံရယူလျှင်၊

(ဇ) ကုမ္ပဏီနှင့် ပြုလုပ်သော ပဋိညာဉ်မှ ရရှိသော အကျိုးတစ်ခုခုတွင် ပတ်သက်လျှင် သို့မဟုတ် ပါဝင်ခံစားခြင်း ရှိလာလျှင်၊

(ဈ) ခြောက်လထက်ပိုသော အချိန်ကာလအတွက် ထောင်ကျခံရလျှင်။

သို့ရာတွင် ဒါရိုက်တာ တစ်ဦးသည် ကုမ္ပဏီ တစ်ခုခုတွင် အဖွဲ့ဝင် တစ်ဦးဖြစ်လျှင် ထိုကုမ္ပဏီနှင့် ထိုသူဒါရိုက်တာအဖြစ်ရှိသည့် ကုမ္ပဏီကို ပဋိညာဉ်ပြုလုပ်ခြင်း၊ သို့မဟုတ် အလုပ်လုပ်ကိုင်ခြင်း အကြောင်းတို့ကြောင့် ထိုသူသည် ဒါရိုက်တာအဖြစ်မှ ရပ်စဲခြင်း မခံစေရ။ သို့ရာတွင် ဒါရိုက်တာ တစ်ဦးသည် ထိုပဋိညာဉ် သို့မဟုတ် အလုပ်နှင့် စပ်လျဉ်း၍ မဲပေးခွင့် မရှိစေရ။ အကယ်၍ မဲပေးလျှင်လည်း ထိုမဲကို ထည့်သွင်းရေတွက်ခြင်း မပြုရ။

## ဒါရိုက်တာများ အလှည့်ကျ ဆောင်ရွက်ခြင်း

၆၆။ ကုမ္ပဏီ၏ ပထမဦးဆုံး သာမန်အစည်းအဝေးတွင် ဒါရိုက်တာအားလုံးသည် ရာထူးမှ နုတ်ထွက်ပေးရမည်။ ထို့ပြင်နောက် ဆက်တိုက်ဖြစ်သော နှစ်တိုင်းတွင် ထိုအချိန်၌ ဆောင်ရွက်နေသော၊ သုံးပုံတစ်ပုံသော ဒါရိုက်တာများသည် သို့မဟုတ် ထိုသူတို့၏ ဦးရေသည် သုံးဦးမဟုတ်လျှင် သို့မဟုတ် သုံး၏မြှောက်ရကိန်းဦးရေ မဟုတ်လျှင် သုံးပုံတစ်ပုံနှင့် အနီးကပ်ဆုံး ဦးရေသည် ရာထူးမှ နုတ်ထွက်ပေးရမည်။

၆၇။ နှစ်စဉ်ရာထူးမှ နုတ်ထွက်ပေးရန် ကိစ္စတွင် နောက်ဆုံး အရွေးချယ်ခံခဲ့ရသည့် အချိန်မှစ၍ ရာထူးတွင် သက်တမ်းအရှည်ဆုံး ဒါရိုက်တာများ ဖြစ်လာသူများအနက်မှ မည်သူ နုတ်ထွက်ပေးရမည် ဟူသော ကိစ္စပေါ်ပေါက်ခဲ့လျှင် (အခြားနည်း အချင်းချင်း သဘောမတူကြလျှင်) နုတ်ထွက်ခြင်းကို မဲဖြင့် ဆုံးဖြတ်ပေးရမည်။

၆၈။ နုတ်ထွက် အနားယူသွားသော ဒါရိုက်တာတစ်ဦးသည် ပြန်လည် အရွေးခံပိုင်ခွင့် ရှိစေရမည်။

၆၉။ အထွေထွေ အစည်းအဝေးတွင် ဒါရိုက်တာတစ်ဦးသည် ဖေါ်ပြပါ နည်းလမ်းအတိုင်း နုတ်ထွက် အနားယူပါက လစ်လပ်သော ရာထူးတွင် ပုဂ္ဂိုလ်တစ်ဦးအား အစားထိုးရွေးချယ် တင်မြှောက်နိုင်သည်။

၇၀။ ဒါရိုက်တာများ ရွေးချယ်တင်မြှောက်ရမည် ဖြစ်သော မည်သည့် အစည်းအဝေးတွင် မဆို လစ်လပ်သော ဒါရိုက်တာ ရာထူးနေရာများတွင် အောင်မြင်စွာ ဖြည့်စွက်ခြင်း မပြုပါက၊ အစည်းအဝေးကို လာမည့်ရက်သတ္တပတ်၊ ထိုနေ့၊ ထိုအချိန်၊ ထိုနေရာသို့ ရွှေ့ဆိုင်းရမည်။ ထို့ပြင် ရွှေ့ဆိုင်းသည့် အစည်းအဝေးတွင် ဒါရိုက်တာရာထူးနေရာများကို ဖြည့်စွက်ခြင်းမပြုနိုင်ပါက လစ်လပ်သွားသော ရာထူးတွင် ဆောင်ရွက်ခဲ့သူ ဒါရိုက်တာများ သို့မဟုတ် ၎င်းတို့၏ မည်သည့်ရာထူးနေရာများကိုမဆို မဖြည့်စွက်ရသေးသော အဆိုပါ ဒါရိုက်တာများသည် ရွှေ့ဆိုင်းသော အစည်းအဝေးတွင် ပြန်လည် အရွေးခံရသည်ဟု မှတ်ယူရမည်။

၇၁။ ကုမ္ပဏီသည် ခေါ်အားလျော်စွာ အထွေထွေ အစည်းအဝေးတွင် ဒါရိုက်တာဦးရေကို တိုးချဲ့ သို့မဟုတ် လျှော့ချနိုင်သည်။ ကုမ္ပဏီသည် တိုးချဲ့မည့် သို့မဟုတ် လျှော့မည့် ဦးရေ၊ ရာထူးမှ မည်သို့ပုံမျှ အလှည့်ကျဖြင့် နုတ်ထွက်မည့် ဦးရေကိုလည်း ပြဋ္ဌာန်းသတ်မှတ်ခွင့် ရှိသည်။

၇၂။ ဒါရိုက်တာအဖွဲ့တွင် ရှောင်တခင် တစ်နေရာရာ လစ်လပ်ခဲ့လျှင် ဒါရိုက်တာများက ဖြည့်စွက်နိုင်ခွင့် ရှိသည်။

၇၃။ ဒါရိုက်တာများ၌ မည်သည့်အခါတွင်မဆို ခေါ်အားလျော်စွာ နောက်လာမည့် သာမန် အထွေထွေ အစည်းအဝေးတွင် ရာထူးမှ နုတ်ထွက် အနားယူမည့်သူအား တွဲဖက် ဒါရိုက်တာ တစ်ဦးအဖြစ် ခန့်ထားရန် အာဏာရှိရမည်။ ထိုသူသည် နောင်လာမည့် သာမန် အထွေထွေ အစည်းအဝေးတွင် ရာထူးမှ နုတ်ထွက် အနားယူရမည်။ သို့ရာတွင် ထိုအစည်းအဝေးတွင် ထိုသူသည် တွဲဖက်ဒါရိုက်တာတစ်ဦးအဖြစ် ကုမ္ပဏီက ရွေးချယ်တင်မြှောက်ရာ၌ အရွေးခံနိုင်ခွင့် ရှိစေရမည်။

၇၄။ ကုမ္ပဏီသည် အထူးဆုံးဖြတ်ချက်ဖြင့် ဒါရိုက်တာ တစ်ဦးအား ရာထူးသက်တမ်း မကုန်ဆုံးမီ ရာထူးမှ ထုတ်ပယ်နိုင်သည်။ ထို့ပြင် ဆုံးဖြတ်ချက်အနေဖြင့် အခြားပုဂ္ဂိုလ် တစ်ဦးအား ထိုသူ၏ နေရာတွင် ခန့်ထား နိုင်သည်။ သို့ရာတွင် ထိုကဲ့သို့ ရွေးချယ်ခံရသူသည် အနားယူခြင်းနှင့် စပ်လျဉ်း၍ မိမိသည် မိမိဖြည့်စွက်ခြင်း ပြုရသည့် ဒါရိုက်တာအား နောက်ဆုံး ရွေးချယ်ခဲ့သည့်နေ့၌ အရွေးခံရသကဲ့သို့ ထိုဒါရိုက်တာ နုတ်ထွက်အနားယူရမည့် အချိန်၌ပင် နုတ်ထွက်အနားယူရမည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၇၅။ ဒါရိုက်တာများသည် လုပ်ငန်းဆောင်ရွက်ရန်အတွက် အစည်းအဝေးကျင်းပခြင်း၊ ရွှေ့ဆိုင်းခြင်းနှင့် အခြားနည်းဖြင့် ၎င်းတို့၏ အစည်းအဝေးများနှင့် ပတ်သက်၍ သင့်လျော်သည်ဟု ထင်မြင်သည့်အတိုင်း စီမံပြုလုပ်နိုင်သည်။ အစည်းအဝေး တစ်ခုခုတွင် ပေါ်ပေါက်လာသော ပြဿနာများကို များရာမဲဖြင့် ဆုံးဖြတ်ရမည်။ မဲကျညီလျှင် သဘာပတိသည် ဒုတိယ သို့မဟုတ် ဆုံးဖြတ်မဲကို ပေးပိုင်ခွင့်ရှိရမည်။ ဒါရိုက်တာတစ်ဦး၏ တောင်းဆိုခြင်းကြောင့် အတွင်းရေးမှူးသည် ဒါရိုက်တာ အစည်းအဝေးကို မည်သည့် အခါတွင်မဆို ခေါ်ယူနိုင်သည်။

၇၆။ ဒါရိုက်တာများ၏ လုပ်ငန်းကို ဆောင်ရွက်ရန် လိုအပ်သော အစည်းအဝေး အထမြောက်ရန် ဦးရေကို ဒါရိုက်တာများက သတ်မှတ်နိုင်သည့်အပြင် သတ်မှတ်ခြင်းမရှိပါက ပါကီ **အေ** နှင့် **ဘီ** တို့မှ တစ်ဦးစီဖြင့် နှစ်ဦးဖြစ်စေရမည်။

၇၇။ ဆက်လက် တာဝန်ထမ်းဆောင်သော ဒါရိုက်တာများသည် ၎င်းတို့အဖွဲ့ဝင်တွင် ဒါရိုက်တာ ရာထူးနေရာ လစ်လပ်စေကာမူ အမှုကိစ္စကို ဆောင်ရွက်နိုင်သည်။ သို့ရာတွင် ထိုဒါရိုက်တာများ အရေအတွက်သည် ကုမ္ပဏီ၏ စည်းမျဉ်းများအရ သို့မဟုတ် ထိုစည်းမျဉ်းများအား လိုက်နာသောအားဖြင့် အစည်းအဝေး အထမြောက်ရန် လိုအပ်သော အရေအတွက်ထက် လျော့နည်းနေလျှင် လျော့နည်းနေသမျှ ကာလပတ်လုံး တာဝန်ဆက်လက်ထမ်းဆောင်သော ဒါရိုက်တာများသည် အဆိုပါ ဦးရေအထိ ဒါရိုက်တာများ၏ ဦးရေကို တိုးချဲ့ခြင်း ကိစ္စအလို့ငှာ သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေးတစ်ခုကို ခေါ်ယူရန် ဆောင်ရွက်နိုင်သည်။ သို့ရာတွင် အခြားကိစ္စ အလို့ငှာ ဆောင်ရွက်ခြင်း မရှိစေရ။

၇၈။ ဒါရိုက်တာများသည် မိမိတို့၏ အစည်းအဝေးများတွင် သဘာပတိ တစ်ဦးအား ရွေးကောက်တင်မြှောက်နိုင်သည့်အပြင် ထိုသူ၏ ရာထူးသက်တမ်းကိုလည်း သတ်မှတ်ရမည်။ သို့ရာတွင် ထိုသဘာပတိအား ရွေးချယ်လျှင် သို့မဟုတ် မည်သည့်အစည်းအဝေး၌ဖြစ်စေ ကျင်းပရန် သတ်မှတ်သော အချိန်ထက် နောက်ကျ၍ ငါးမိနစ်အတွင်း သဘာပတိအဖြစ် ဆောင်ရွက်ရန် မရောက်လျှင်၊ တက်ရောက်သော ဒါရိုက်တာများက မိမိတို့အထဲမှ တစ်ဦးအား သဘာပတိ အဖြစ်ရွေးချယ်စေရမည်။

၇၉။ ဒါရိုက်တာများသည် မိမိတို့၏ မည်သည့် အာဏာများကိုမဆို မိမိတို့၏ အဖွဲ့တွင် ပါဝင်သူများဖြင့် ဖွဲ့စည်းထားသော ကော်မတီများသို့ သင့်သည်ဟု ထင်မြင်လျှင် အာဏာလွှဲအပ်နိုင်သည်။ ထိုသို့ ဖွဲ့စည်းထားသော ကော်မတီသည် လွှဲအပ်သော အာဏာများကို အသုံးပြုရာတွင် ဒါရိုက်တာများက ၎င်းတို့အား သတ်မှတ်ပေးသည့် စည်းမျဉ်းများနှင့် လျော်ညီစွာ ကျင့်သုံးဆောင်ရွက်ရမည်။

၈၀။ ကော်မတီတစ်ခုသည် အစည်းအဝေးများအတွက် သဘာပတိ တစ်ဦးအား ရွေးချယ်ထားနိုင်သည်။ အကယ်၍ သဘာပတိအား ရွေးချယ်ခြင်းမပြုလျှင် သို့မဟုတ် သဘာပတိသည် အစည်းအဝေး ကျင်းပရန် သတ်မှတ်သည့် အချိန်ထက် နောက်ကျ၍ ငါးမိနစ်အတွင်း အစည်းအဝေးသို့ တက်ရောက်ရန် ပျက်ကွက်လျှင် တက်ရောက်သော အဖွဲ့ဝင်များသည် ၎င်းတို့အထဲမှ အစည်းအဝေး သဘာပတိတစ်ဦးကို ရွေးချယ်နိုင်သည်။

၈၁။ ကော်မတီသည် ၎င်းတို့ နည်းလမ်းကျသည်ဟု ထင်မြင်သည့်အတိုင်း အစည်းအဝေး ပြုလုပ်နိုင်သည်။ ရွှေ့ဆိုင်းနိုင်သည်။ အစည်းအဝေးတစ်ခုခုတွင် သဘောထားကွဲလွဲ၍ ပြဿနာ ပေါ်ပေါက်ပါက တက်ရောက်သည့် အစုရှယ်ယာ ဝင်များ၏ များရာမဲဖြင့် ဆုံးဖြတ်ရမည်။ ထို့ပြင် မဲများတူညီနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အဆုံးအဖြတ်မဲ ပေးပိုင်ခွင့် ရှိရမည်။

၈၂။ ဒါရိုက်တာများ သို့မဟုတ် ဒါရိုက်တာများ၏ ကော်မတီ၏ မည်သည့် အစည်းအဝေးတွင်မဆို သို့မဟုတ် ဒါရိုက်တာကဲ့သို့ ဆောင်ရွက်မည့်သူ တစ်ဦးမဆို၏ ဆောင်ရွက်ချက်များ အားလုံးသည် ဒါရိုက်တာများ သို့မဟုတ် ဒါရိုက်တာများကဲ့သို့ ဆောင်ရွက်သူများအား ခန့်ထားရာတွင် ချွတ်ယွင်းချက်များ သို့မဟုတ် ၎င်းတို့အားလုံး သို့မဟုတ် ၎င်းတို့အနက် တစ်ဦးဦး၏ အရည်အချင်း ပျက်ကွက်ခြင်းများကို နောက်ပိုင်းတွင် တွေ့ရှိစေကာမူ ထိုသူတို့အား နည်းလမ်းတကျ ခန့်အပ်ခဲ့သည်ဟူ၍လည်းကောင်း၊ ဒါရိုက်တာဖြစ်ရန် အရည်အချင်းနှင့်လည်း ပြည့်စုံသည်ဟူ၍ လည်းကောင်း ခိုင်လုံစေရမည်။

## အမြတ်ဝေစုနှင့် သီးသန့်ငွေ

၈၃။ ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေးတွင် အမြတ်ဝေစုများကို ကြေညာနိုင်သည်။ သို့ရာတွင် ဒါရိုက်တာများ တောက်ခံသည့် ငွေထက် ပိုသည့် အမြတ်ဝေစုမှ မပိုစေရ။

၈၄။ ဒါရိုက်တာများသည် အခါအားလျော်စွာ အစုရှယ်ယာဝင်များသို့ ကြားဖြတ်အမြတ်ဝေစုများကို ကုမ္ပဏီ၏ အမြတ်များမှ ပေးနိုင်သလောက်သော အခြေအနေနှင့် လျော်ညီသည်ဟု ထင်မြင်လျှင် ပေးနိုင်သည်။

၈၅။ အမြတ်ဝေစုကို ပေးနိုင်ရန်ရရှိသော အမြတ်များမှ သို့မဟုတ် အခြားပေးဝေနိုင်သော ငွေများမှ လွှဲ၍ အခြားနည်းဖြင့် မပေးရ။

၈၆။ အမြတ်ဝေစုများနှင့် ပတ်သက်၍ အထူးအခွင့်အရေးရှိသော အစုရှယ်ယာများအပေါ် ပိုင်ဆိုင်ခွင့် (ရှိလျှင်) ရှိသူများ၏ အခွင့်အရေးကို မဆန့်ကျင်စေဘဲ အမြတ်ဝေစုများ အားလုံးကို အစုရှယ်ယာများ အပေါ် ပေးပြီး ငွေပမာဏပေါ်တွင် ကြေညာ၍ ပေးရမည်။ သို့ရာတွင် ကုမ္ပဏီ၏ မည်သည့် အစုရှယ်ယာများ အတွက်မဆို မပေးသွင်းရသေးလျှင် သို့မဟုတ် မပေးရသေးသော အစုရှယ်ယာများ၏ ငွေပမာဏအတိုင်း အမြတ်ဝေစုများကို ကြေညာပြီး ပေးနိုင်သည်။ အစုရှယ်ယာများအပေါ် တောင်းဆိုခြင်း မပြုမီ ကြိုတင်၍ ငွေပေးထားလျှင် ထိုငွေအပေါ် အတိုးရရှိနေသမျှ ကာလအတွင်း ဤစည်းမျဉ်းပါ ကိစ္စအလို့ငှာ အစုရှယ်ယာအပေါ် ပေးခြင်းဖြစ်သည်ဟု သတ်မှတ်သည်။

၈၇။ ဒါရိုက်တာများသည် မည်သည့် အမြတ်ဝေစုကိုမဆို မထောက်ခံမီ ကုမ္ပဏီ၏ အမြတ်များမှ သင့်လျော်သည်ဟု ထင်မြင်သော အရေးအတွက်များကို သီးသန့်ရန်ပုံငွေ သို့မဟုတ် သီးသန့်ငွေများကို အရေးပေါ်ကိစ္စများအတွက် သုံးစွဲရန် သို့မဟုတ် အမြတ်ဝေစုများ ညှိရန်၊ သို့မဟုတ် အမြတ်ငွေများကို နည်းလမ်းမှန်ကန်စွာ အသုံးပြုနိုင်သည်။ အခြားကိစ္စများအတွက် ဒါရိုက်တာများ၏ သဘောအရ ဖယ်ထားနိုင်သည်။ ထိုကဲ့သို့ ကိစ္စများ သုံးစွဲခြင်းမပြုမီကာလ မိမိတို့၏ အလားတူ သဘောအလျောက် မိမိတို့ သင့်မည်ထင်သည့်အတိုင်း ကုမ္ပဏီ လုပ်ငန်းများတွင် မည်သည့် ရင်းနှီးမြှုပ်နှံခြင်း လုပ်ငန်းများ (ကုမ္ပဏီ၏ အစုရှယ်ယာများတွင်မှတစ်ပါး)၌ ငွေရင်းမြှုပ်နှံနိုင်သည်။

၈၈။ မည်သည့် အစုမဆိုကို သူအများက တွဲဖက်ပိုင်ရှင်များအဖြစ် မှတ်ပုံတင်ထားလျှင် ထိုအစုရှယ်ယာအပေါ် ပေးရန်ရှိသည့် အမြတ်ဝေစုအတွက် ခိုင်လုံသော ပြေစာလက်မှတ်ကို ထိုသူများအနက် တစ်ဦးဦးက ပေးနိုင်သည်။

၈၉။ နောင်တွင် ဖော်ပြမည့် နည်းလမ်းအတိုင်း ကြေညာပြီးဖြစ်မည့် မည်သည့် အမြတ်ဝေစုမဆိုကို အကြောင်းကြားစာတွင် ပါရှိသည့် အစုရှယ်ယာကို ပိုင်ဆိုင်ခွင့်ရှိသော ပုဂ္ဂိုလ်များထံသို့ ပေးပို့ရမည်။

၉၀။ ကုမ္ပဏီ၏ အကျိုးကို ဆန့်ကျင်လျှင် မည်သည့် အမြတ်ဝေစုမျှ ကုမ္ပဏီအပေါ်မှ အတိုးရခွင့် မရှိစေရ။

## ငွေစာရင်းများ

၉၁။ ဒါရိုက်တာများသည် အောက်ပါတို့နှင့် စပ်လျဉ်း၍ သက်ဆိုင်သော လိုအပ်သည့် စာရင်း စာအုပ်များကို ထားရှိစေရမည် -

(က) ကုမ္ပဏီမှ ရငွေများနှင့် သုံးငွေများ အားလုံးအပြင် ထိုငွေများရခြင်း၊ သုံးခြင်းနှင့် ပတ်သက်သည့် အကြောင်းရင်း ကိစ္စများ၊

(ခ) ကုမ္ပဏီက ပစ္စည်းများကို ရောင်းချခြင်းနှင့် ဝယ်ယူခြင်း၊

(ဂ) ကုမ္ပဏီ၏ ပေးရန်ကြွေးမြီ တာဝန်များနှင့် ပစ္စည်းရပိုင်ခွင့်များ။

၉၂။ ငွေစာရင်းစာအုပ်များကို ကုမ္ပဏီ၏ မှတ်ပုံတင်ထားသောရုံး သို့မဟုတ် ဒါရိုက်တာများက သင့်သည် ထင်မြင်သော အခြားနေရာများ၌ ထားရှိရမည်ဖြစ်ပြီး ရုံးချိန်အတွင်း ဒါရိုက်တာများ စစ်ဆေး ကြည့်ရှုနိုင်ရန် အတွက် အသင့်ရှိနေစေရမည်။

၉၃။ ဒါရိုက်တာများသည် အခါအားလျော်စွာ မည်သည့် အချိန်၊ နေရာ၊ နေရာများ၊ ထို့ပြင် မည်သည့် နည်းကမ်း သို့မဟုတ် စည်းမျဉ်းများအရ ကုမ္ပဏီ၏ ငွေစာရင်းနှင့် စာအုပ်များ သို့မဟုတ် ၎င်းတို့အနက် မည်သည့် အချို့ကို ဒါရိုက်တာမဟုတ်သော အစုရှယ်ယာဝင်များ အနေဖြင့် စစ်ဆေးကြည့်ရှုရန် လိုမလိုနှင့် မည်၍မည်မျှ ကြည့်ရှု စစ်ဆေးနိုင်ကြောင်းကို သတ်မှတ်ရမည်။ ထို့ပြင် မည်သည့် (ဒါရိုက်တာမဟုတ်သော) အစုရှယ်ယာဝင်များသည် ဥပဒေအရ သို့မဟုတ် (ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေး သို့မဟုတ် ဒါရိုက်တာများ၏ ခွင့်ပြုချက်ပေးထားဖြင်းဖြင့်မှ တစ်ပါး ကုမ္ပဏီ၏ စာရွက်စာတမ်း သို့မဟုတ် စာအုပ် သို့မဟုတ် မည်သည့် ငွေစာရင်းကိုမျှ စစ်ဆေး ကြည့်ရှုနိုင်ခွင့် မရှိစေရ။

၉၄။ ဒါရိုက်တာများသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၃၁ နှင့် ၁၃၁-က တို့အရ ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေးတွင် အရှုံးအမြတ်စာရင်း၊ လက်ကျန်ရှင်းတမ်းများနှင့် အဆိုပါ ပုဒ်မများတွင် ရည်ညွှန်းထားသော အစီရင်ခံစာများကို တင်သွင်းရန် ပြင်ဆင်စေ၍ ပြင်ဆင် တင်ပြစေရမည်။

၉၅။ အရှုံးအမြတ် စာရင်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၃၂ ပုဒ်မခွဲ(၃) ပါ ပြဋ္ဌာန်း ချက်၌ ရည်ညွှန်းထားသော ကိစ္စများအပြင်၊ အသင့်လျော်ဆုံး ခေါင်းစည်းစာကမ်းများအလိုက် စီစဉ်လျှင် ရရှိပုံ အကြောင်းရင်းများကို သီးခြား ဖော်ပြထားသည့် အကြွမ်းစုစုပေါင်းငွေကို ဖော်ပြရမည်။ ထို့ပြင် အကြမ်းသုံးငွေ စုစုပေါင်းကို အုပ်ချုပ်ရေးအတွက် ကုန်ကျငွေများ၊ လစာများ၊ အခြားအလားတူများကို အသီးသီး ခွဲခြားဖော်ပြရမည်။ မျှတသော အရှုံးအမြတ်စာရင်း ချိန်ကိုက်ကို အစည်းအဝေး၌ တင်ပြ နိုင်ရန် တစ်နှစ်ဝင်ငွေအပေါ် မျှတစွာ ကောင်းခံခွင့်ရှိသော အသုံးငွေတိုင်းကို စာရင်းရေးသွင်း ဖော်ပြ ရမည်။ ထို့ပြင် နှစ်များစွာဖြန့်၍ သုံးစွဲမှသာ မျှတမည်ဖြစ်သော အသုံးငွေကို တစ်နှစ်အသုံးစရိတ် အဖြစ် သုံးစွဲခဲ့လျှင်၊ ထိုအသုံးစရိတ် တစ်ခုလုံးကို အဘယ့်ကြောင့် ထိုနှစ်ဝင်ငွေအပေါ်မှသာ တစ်စိတ်တစ်ဒေသအားဖြင့် ကျခံခဲ့သည်ဆိုသည့် အကြောင်းပြချက်ဖြင့် ရှင်းလင်း ဖော်ပြရမည်။

၉၆။ လက်ကျန်စာရင်း ရှင်းကမ်းကို နှစ်စဉ် ရေးဆွဲပြီး အထွေထွေ အစည်းအဝေး၌ ထိုအစည်းအဝေး မတိုင်မီ (၆) လထက်မပိုသော ရက်ကို နောက်ဆုံးထား၍ ပြင်ဆင်ထားသည့် စာရင်းအဖြစ် တင်ပြ ရမည်။ လက်ကျန် စာရင်းရှင်းတမ်းသည် လက်ကျန် စာရင်းရှင်းတမ်းကို အခြေအနေ အရပ်ရပ်၊ အမြတ်ဝေစု မည်မျှ ပေးသင့်ကြောင်း ထောက်ခံချက်နှင့် သီးသန့်ရန်ပုံငွေသို့ ထည့်သွင်းရန် ဒါရိုက်တာများ အဆိုပြုသည့်ငွေ (ရှိလျှင်) ကို ဖော်ပြပါရှိသော ဒါရိုက်တာများ၏ အစီရင်ခံစာကို အတူပါရှိရမည်။

၉၇။ အစီရင်ခံစာနှင့် လက်ကျန်ငွေစာရင်း ရှင်းတမ်း တစ်စောင်ကို အစည်းအဝေးမတိုင်မီ ခုနစ်ရက် ကြိုတင်၍ အကြောင်းကြားစာများ ပေးရမည်။ ဤမှ အောက်တွင်ဖော်ပြထားသည့် နည်းလမ်းများအတိုင်း အထွေထွေ အစည်းအဝေးများ၏ အကြောင်းကြားစာ လက်ခံရရှိခွင့် ရှိသူများထံ အကြောင်းကြားစာ ချအပ်သည့် နည်းလမ်းအတိုင်းပေးပို့ရမည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ၁၀၃၈ / ၁၉၉၃-၁၉၉၄

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ စတင်း ဒတ် မြန် မာ ကု မ္ပ ဏီ လီ မိ တက် အား ပေးရန်တာဝန်ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၁၉၉၄ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂၅ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

( သိန်း တင် )
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

THE GOVERNMENT OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

No. 1038 of 1993-1994

*I hereby certify that* STANDARD MYANMAR COMPANY LIMITED *is this day incorporated under the Myanmar Companies Act and that the company is Limited.*

*Given under my hand at Yangon this* TWENTY FIFTH *day of* FEBRUARY *one thousand nine hundred and* NINETY FOUR

( THEINGI TIN )
Registrar of Joint Stock Companies
Companies Registration Office

PRIME COMMERCIAL BANK LIMITED

PRIME COMMERCIAL BANK LTD * YANGON *

No.

Dated, 23.6.95 19

To,

Standard Myanmar
Co. Ltd
178/180 60th St. Pazundaung
PCS.0020

Dear Sir,

We hereby certify that the balance standing at the credit of the account of PCS.0020 with the Prime Commercial Bank Limited Yangon at the close of business on the 23.6.95 (2:30 P.M) was K4259863/68 (Kyats Forty two lakhs fifty nine thousand eight hundred & sixty three/68)

Yours faithfully,

23/6/95

MANAGER

Manager
Accounts Deptt
PRIME COMMERCIAL BANK.

# STANDARD MYANMAR CO., LTD.

No.(12.A), Inyamyaing Road, Kamayut Township, Yangon, Myanmar.
phone: 01-30812

ရက်စွဲ။ ။ ၂၃-၆-၉၅

## စတင်းဒတ်မြန်မာ ကုမ္ပဏီလီမိတက် ပိုင်ဆိုင်သော သစ်အခြေခံ စက်ကရိယာများတန်ဘိုး

| စက်များ အကြောင်းအရာ | ဦးရေ | ကျပ် |
|---|---|---|
| 1. 4 Side planer (6 spindle ) model No 206 (Band new ) | 1 | 3000,000 |
| 2. Double Head spindle moulder model No. cmp - 522 (Band new ) | 1 | 400,000 |
| 3. Multiple Rip saw 12" wide model No .Sye - 101 (Reconditioned ) | 1 | 900,000 |
| 4. Straight line single Rip saw model No CW -460 (Band news 10H.P) | 1 | 1000,000 |
| 5. Single end tenoner (Reconditioned) model No TET 4 | 1 | 100,000 |
| 6. Double End Miter Saw with mounting Head. model No TDS 6 sat (Band new ) | 1 | 1500 ,000 |
| 7. Montiser model No.cm 1276 (Band New) | 1 | 126,900 |
| 8. Wide Belt Sander (Reconditioned ) Model No T1136 H | | 549,900 |
| | | 7576, 800 |

Kyat 75.77 lakh.

(ဦးစိုးထွန်း)
ဒါရိုက်တာ
*Standard Myanmar Co., Ltd.*

**STANDARD MYANMAR CO., LTD.**

HEAD OFFICE : No. 437 Pyay Road. Prime Commercial Bank Tel : 35990 / 35682 Fax : 32420 / 35528

သို့

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့သဘောကျင်းလုပ်ငန်း
ဆင်မလိုက်၊ ရန်ကုန်မြို့။

ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဩဂုတ်လ (၁) ရက်။

အကြောင်းအရာ။ ။ ဘဏ်အာမခံကြေးပေးသွင်းခြင်းအတွက်ဖြည့်စွက်တင်ပြခြင်း။

အထက်ပါကိစ္စနှင့်ပတ်သက်၍ မြန်မာ့သဘောကျင်းလုပ်ငန်းနှင့်စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်တို့၏ သစ်အခြေခံပစ္စည်းထုတ်လုပ်ရေး ဖက်စပ်လုပ်ငန်း ပဋိညာဉ်စာချုပ်၊ အခန်း (၁၃)၊ အပိုဒ် (၁၃.၁) ပါ ဖော်ပြချက်အတွက် အောက်ပါအတိုင်း ဖြည့်စွက်ဖော်ပြအပ်ပါသည်။

အပိုဒ် (၁၃.၁) ပါ ဘဏ်အာမခံကြေးအဖြစ် အငှားချထားခြင်းခံရသူက အငှားချထားပေးသူသို့ မိမိရင်းနှီးမြှုပ်နှံမှုငွေ၏ ၁၀ ရာခိုင်နှုန်းကို ဘဏ်အာမခံကြေး ပေးသွင်းရန် သဘောတူပါသည်။

(ဘိုကျော်)
ဦးဆောင်ညွှန်ကြားရေးမှူး
Standard Myanmar Co., Ltd.

# လုပ်ငန်းဆောင်ရွက်မှုအကျဉ်းချုပ်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၏ ပို့ဆောင်ရေးဝန်ကြီးဌာန လက်အောက်ရှိ မြန်မာ့သင်္ဘောကျင်းလုပ်ငန်းနှင့် ပုဂ္ဂလိကကုမ္ပဏီလီမိတက်ဖြစ်သည့် ဒေါင်းဒေါက်မြန်မာကုမ္ပဏီလီမိတက်နှစ်ဖွဲ့တို့သည် အမ်အက်(စ်) ဂု(ဒ်) ဝါ(ဒ်)ကုမ္ပဏီလီမိတက် ဖက်စပ်ကုမ္ပဏီကို ၁၉၅၀ ပြည့်နှစ် အထူးကုမ္ပဏီအက်ဥပဒေအရ မြန်မာနိုင်ငံတွင် အများနှင့်မသက်ဆိုင်သော ဖက်စပ်ကုမ္ပဏီဖွဲ့စည်းတည်ထောင်၍၊ မြန်မာ့သင်္ဘောကျင်းပိုင် လုပ်ငန်းနယ်မြေ၌ တည်ရှိပြီးသား သစ်ထုတ်လုပ်ရေးစက်ကိရိယာများ အပြင် အခြားစက်ကိရိယာများ တိုးချဲ့သုံးစွဲ၍၊ တန်ဖိုးမြင့် သစ်ပစ္စည်းများကိုထုတ်လုပ်ပြီး ၊ ပြည်တွင်းနှင့်ပြည်ပရှိ ဈေးကွက်များတွင်ကူးသန်းရောင်းဝယ်ရန်ဖြစ်ပါသည်။ ဖက်စပ်ကုမ္ပဏီ၏ ရင်းနှီးမြှုပ်နှံမည့်ငွေရင်း ကျပ် ၁၀၀၀၀၀၀၀၀ (ကျပ်သန်းတစ်ရာတိတိ) ဖြစ်ပြီး ၊ ပေးသွင်းပြီးရင်းနှီးငွေကျပ် ၂၂၆၆၆၀၀၀ (ကျပ်သန်းနှစ်ဆယ့်နှစ် နှင့် ခြောက်သိန်း ခြောက်သောင်း ခြောက်ထောင်တိတိ )ဖြစ်ပါသည်။ အကျိုးတူရှယ်ယာထည့်ဝင်ခြင်း အချိုးနှင့် အမြတ်ခွဲဝေခြင်းကို ( ၅၅း၄၅ ) ရာခိုင်နှုန်းစီသဘောတူကြပါသည်။ လုပ်ငန်းစီမံခန့်ခွဲမှုကို မြန်မာ့သင်္ဘောကျင်းလုပ်ငန်းမှ ဒါရိုက်တာ ( ၃ )ဦး ဒေါင်းဒေါက်မြန်မာကုမ္ပဏီလီမိတက်မှ ဒါရိုက်တာ (၃) ဦး ပါဝင်သည့် ဒါရိုက်တာဘုတ်အဖွဲ့ကို ဖွဲ့စည်း ဆောင်ရွက်ရန်ဖြစ်ပါသည်။ စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရာ၌ ၊ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရန် လေ၊ ရေ၊ မြေနှင့်ပတ်ဝန်းကျင်ညစ်ညမ်းမှုကို ထိန်းသိမ်းကာ ၊ လုပ်ငန်းကို ဆောင်ရွက်လုပ်ကိုင်မည်ဖြစ်ပါသည်။

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

၆၅၃/၆၆၇၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့

Telex 21368 INVEST BM
Fax : 095 - 01 - 82101

- ၇၂၀၀၉
တယ်လီဖုန်း: - ၇၂၂၁၉
- ၇၂၈၇၀

စာအမှတ်၊ ရကက-၁/မ-၀၃၅/၉၅(~~၅၇၉~~ ၅၈၂)။
ရက်စွဲ၊ ၁၉၉၅ ခုနှစ်၊ ဇူလိုင် ၁၈ ရက်

အကြောင်းအရာ။ ။ သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ။

ရည်ညွှန်းချက်။ ။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၂၂-၆-၉၅ ရက်စွဲပါစာအမှတ်၊ ၁၅၅-ပဆ/ခွဲ(၁)၉၄(၂၂/၆)။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍မြန်မာ့သင်္ဘောကျင်းလုပ်ငန်းနှင့် Standard Myanmar Co., Ltd. တို့ပူးပေါင်း၍ Superior Yangon Wood Product ကုမ္ပဏီအမည်ဖြင့်ဖွဲ့စည်းပြီးသစ်ကုန်ချောပစ္စည်းထုတ်၍ပြည်တွင်းပြည်ပကူးသန်းရောင်းဝယ်ရေးလုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် ကော်မရှင်သို့တင်ပြ ရောက်ရှိလာပါသည်။ (ပူးတွဲ)

၂။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းအခန်း (၃) အပိုဒ် (၁၁) ပါပြဋ္ဌာန်းချက်နှင့်အညီအဆိုပြုချက်ကိုစိစစ်ရာတွင်သက်ဆိုင်ရာအဖွဲ့အစည်းများ၏သဘောထားများကို တောင်းခံရယူရန်လိုအပ်ပါသဖြင့်အဆိုပြုချက်ပါလုပ်ငန်းနှင့်စပ်လျဉ်း၍သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်ကို ပြန်ကြားပါရန် မေတ္တာရပ်ခံအပ်ပါသည်။

(ခိုင်ခိုင်)
တွဲဖက်အတွင်းရေးမှူး

သစ်တောရေးရာဝန်ကြီးဌာန။

ပူးတွဲ- ဖက်စပ်လုပ်ငန်း၏ ပဋိညာဉ်စာချုပ်